၂၀၀၈ ခုနှစ် ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်ဖွဲ့စည်းပုံအခြေခံဥပဒေပုဒ်မ ၃၈၉ အရ နိုင်ငံသားတိုင်းသည်
ဥပဒေအရ ဆေးဆောင်ရမည့် အခွန်အကောက်များကို ပေးဆောင်ရန်တာဝန်ရှိသည်

ပတခ(ကသခ)-၁၇

# ကုန်သွယ်လုပ်ငန်းခွန် ဥပဒေပုဒ်မ ၁၄ နှင့် ၁၇ တို့အရ အခွန်စည်းကြပ်တောင်းခံလွှာ
## (စည်းမျဉ်း ၁၂ ညွှန်း)

CDN-2
28.3.2016

သို့

အမည် Diamond Palace Hotel Co.,Ltd
လိပ်စာ အမှတ်-၃/ဘီ၊သစ္စာလမ်း၊ရန်ကင်းမြို့နယ်
လုပ်ငန်းရှင်မှတ်ပုံတင်အမှတ်- ဖဖ(အခြား)/၁၀

၁။ ..၂၀၁၅-၂၀၁၆.................. စည်းကြပ်နှစ်အတွက် ကျောဘက်တွင် အသေးစိတ်ဖော်ပြထားသော အောက်ဖော်ပြပါငွေကို ပေးဆောင်ရန် အကြောင်းကြားပါသည်။

| | | | | |
|---|---|---|---|---|
| (က) | ကုန်သွယ်လုပ်ငန်းခွန် | | ၅၆၅၂၂၉ | ကျပ် |
| (ခ) | ဒဏ်ငွေ | | ၅၆၅၂၃ | ကျပ် |
| | | စုစုပေါင်း | ၆၂၁၇၅၂ | |

စုစုပေါင်းအခွန် (စာဖြင့်) ခြောက်သိန်းနှစ်သောင်းတစ်ထောင့်ခုနှစ်ရာငါးဆယ့်နှစ်ကျပ်တိတိ

၂။ ထိုငွေကို ......ရန်ကုန်............ မြို့ရှိ ......မြန်မာ့စီးပွားရေး...... ဘဏ် ......(၁) ၃၁.၃.၂၀၁၆........နေ့ထက်နောက်မကျစေဘဲ စေလိုပါသည်။ ပူးတွဲပါငွေသွင်းချလန်များဖြင့်ပေးသွင်းပြီး၊ဒု-မှုရင်းကိုလက်ခံ အဖြစ်ရယူ ဘဏ်စာရင်းအမှတ် ( ) သို့လွဲပြောင်းပေးသွင်း

၃။ အထက်အပိုဒ်(၁)တွင် ဖော်ပြထားသော စုစုပေါင်းအခွန်နှင့်ဒဏ်ငွေကို သတ်မှတ်နေ့ မကျော်လွန်မီ ပေးဆောင်ရန် ပျက်ကွက်လျှင် ပုဒ်မ ၂၁ ပုဒ်မခွဲ(စ) အရ အခွန်ငွေ၏ တစ်ဆယ်ရာခိုင်နှုန်းနှင့် ညီမျှသောငွေကို ဒဏ်ငွေအဖြစ် တပ်ရိုက်ခံရမည်ဖြစ်သည့်အပြင် ပုဒ်မ ၂၄ အရယင်းငွေများကို အရကောက်ခံရမည်ဖြစ်သောကြောင့် မပျက်မကွက် ပေးဆောင်စေလိုပါသည်။

၄။ အခွန်ကျပ် ၃၀၀၀၀ ထက်ပိုလျှင် အယူခံခွင့်ရှိပါသဖြင့် အယူခံလိုပါက ဤအခွန်တောင်းခံလွှာရရှိသည့်နေ့မှ တစ်လအတွင်း ပုဒ်မ ၁၉ ပုဒ်မခွဲ(က) ပိုဒ် (၁) အရ .............................မြို့ရှိ ကုမ္ပဏီများဆိုင်ရာ အခွန်ရုံးဌာနမှူး၊ သို့မဟုတ် တိုင်းဒေသကြီး သို့မဟုတ် ပြည်နယ်အခွန်ဦးစီးဌာနမှူးထံ သတ်မှတ်ထားသော အယူခံလွှာပုံစံဖြင့် ဥပဒေအရ လိုအပ်ချက်များနှင့်အညီ ဆောင်ရွက်ပြီး ပေးပို့ရပါမည်။ ဤအယူခံဝင်လွှာ မတင်သွင်းမီ အခွန်ကို အကျေပေးဆောင်ပြီး ဖြစ်ရပါမည်၊ သို့မဟုတ် ပြည်နယ်အခွန်ဦးစီးဌာနမှူးထံ လျှောက်ထား၍ ၎င်းကဆုံးဖြတ်သည့်အတိုင်း လိုက်နာဆောင်ရွက်ပြီးဖြစ်ရပါမည်။

ပြည်တွင်းအခွန်များဦးစီးဌာန
ရုံးတံဆိပ်

(စန်းစန်းဝင်း)
လက်မှတ် ဦးစီးအရာရှိ
ကုမ္ပဏီများဆိုင်ရာအခွန်ရုံး ဌာနမှူး
အလယ်အလတ်အခွန်ထမ်းများဆိုင်ရာအခွန်ရုံး(၂)
.............................. မြို့နယ်။

| ၂၀၀၈ ခုနှစ် ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်ဖွဲ့စည်းပုံအခြေခံဥပဒေပုဒ်မ ၃၈၉ အရ နိုင်ငံသားတိုင်းသည် ဥပဒေအရ ပေးဆောင်ရမည့် အခွန်အကောက်များကို ပေးဆောင်ရန်တာဝန်ရှိသည် |
|---|

CDN- 14015
28-3-2016

ပတခ (ဝင) - ၈

# ဝင်ငွေခွန် ဥပဒေပုဒ်မ ၅၃ အရ အခွန်တောင်းခံလွှာ

သို့

အခွန်ထမ်းမှတ်ပုံတင်စာရင်းအမှတ် ..32305/MCO.......

Diamond Palace Hotel Co.,Ltd
အမှတ်-၃/ဘီ၊သစ္စာလမ်း၊ရန်ကင်းမြို့နယ်

၁။ ၂၀၁၅...-.၂၀၁၆ စည်းကြပ်နှစ်အတွက် လူကြီးမင်းသည် ကျောဘက်ပါပုံစံတွင် အသေးစိတ် ဖော်ပြထားချက်အရ အောက်ပါငွေကို ပေးဆောင်ရန် အကြောင်းကြားပါသည်။

| | | | ကျပ် | ပြား |
|---|---|---|---|---|
| (က) | ဝင်ငွေခွန် | .... | ၁၁၉၈၉၄၄၄ | - |
| (ခ) | ပုဒ်မ ၁၆ (ဇ) အရ ဒဏ်ငွေ | .... | ၁၁၉၈၉၄၄ | |
| (ဂ) | ပုဒ်မ ၄၀(က) အရ ဒဏ်ငွေ | .... | | |
| (ဃ) | ပုဒ်မ ၄၆(က) အရ ဒဏ်ငွေ | .... | | |
| (င) | ပုဒ်မ ၄၇(ခ) အရ ဒဏ်ငွေ | .... | | |
| (စ) | ပုဒ်မ ၄၇(ဂ) အရ ဒဏ်ငွေ | .... | | |
| | စုစုပေါင်း | | ၁၃၁၈၈၃၈၈ | - |

၂။ အထက်ဖော်ပြပါ ငွေစုစုပေါင်းကို ရန်ကုန် မြို့ရှိ သက်ဆိုင်ရာဘဏ် (၁) တွင် ၃၁.၃.၂၀၁၆ နေ့၌ဖြစ်စေ၊ ထိုနေ့မတိုင်မီဖြစ်စေ ပူးတွဲပါ ငွေသွင်းပြေစာပုံစံဖြင့် ပေးသွင်းပြီး ငွေလက်ခံဖြတ်ပိုင်းကို ရယူစေလိုပါသည်။

၃။ အထက်အပိုဒ် (၁)တွင်ဖော်ပြထားသည့် အခွန်နှင့်ဒဏ်ငွေစုစုပေါင်းကို ပေးဆောင်ရန်ပျက်ကွက်ပါက ပုဒ်မ (၄၀) အရ၊ ထိုတောင်းခံငွေစုစုပေါင်းနှင့် ညီမျှသည်အထိ ဒဏ်ငွေတပ်ရိုက်ခြင်းနှင့် တရားစွဲဆိုအရကောက်ခံခြင်း ခံရဖွယ်ရှိပါ၍ မပျက်မကွက် ပေးဆောင်စေလိုပါသည်။

၄။ စည်းကြပ်မှုကို ပုဒ်မ ၁၉(ဃ) အရ ပြုလုပ်ထားသည်မှာ လူကြီးမင်းသည်-
ပုဒ်မ ၁၇ အရဝင်ငွေကြေငြာလွှာတင်သွင်းရန်
ပုဒ်မ ၁၉ (ခ) အရ သိုအပ်သည့် အတိုင်းဆောင်ရွက်ရန် ———— ပျက်ကွက်ခဲ့ခြင်းကြောင့်ဖြစ်ပါသည်။

၅။ စည်းကြပ်မှုသို့မဟုတ် ဒဏ်ငွေတပ်ရိုက်မှုကို အယူခံလိုပါက ဤအကြောင်းကြားစာရရှိပြီး ကပ်လျက်ဖြစ်သော နောက်နေ့မှ ရက်ပေါင်း (၃၀) အတွင်း ဝင်ငွေခွန် ဥပဒေပုဒ်မ ၃၂(က) အရ ..............................မြို့ ရှိ ...................... တိုင်းဒေသကြီး/ ပြည်နယ် အခွန်ဦးစီးဌာနမှူးရုံး သို့မဟုတ် ကုမ္ပဏီများဆိုင်ရာအခွန်ရုံးသို့ ပြဋ္ဌာန်းထားသော အယူခံပုံစံဖြင့်စည်းကမ်းနည်းလမ်းများအတိုင်း ဆောင်ရွက်ပြီး အယူခံလွှာကို တင်သွင်းရန်ဖြစ်ပါသည်။ ထို့ပြင် အယူခံမဝင်မီ အခွန်ငွေကို ပေးဆောင်ပြီး ဖြစ်ရပါမည်။ သို့မဟုတ် .................. မြို့နယ်အခွန်ဦးစီးဌာနမှူးထံ ဆိုင်ရာပြဋ္ဌာန်းချက်အရ လျှောက်ထား၍ ယင်း၏ ဆုံးဖြတ်ချက်အတိုင်း ဆောင်ရွက်ထားပြီးဖြစ်ရပါမည်။

ပြည်တွင်းအခွန်များဦးစီးဌာန
အလယ်အလတ်အခွန်ထမ်းများဆိုင်ရာအခွန်ရုံး
စာအမှတ်...ရုံး၊ဌာန၊ဆိပ်
ရက်စွဲ..................
နေ့စွဲ ၃၁.၃.၂၀၁၆

(စန်းစန်းဝင်း)
ဦးစီးအရာရှိ
မြို့နယ်အခွန်ဦးစီးဌာနမှူး
ကုမ္ပဏီများဆိုင်ရာအခွန်ရုံး
အလယ်အလတ်အခွန်ထမ်းများဆိုင်ရာအခွန်ရုံး(၂)

၂၀၀၈ ခုနှစ် ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်ဖွဲ့စည်းပုံအခြေခံဥပဒေပုဒ်မ ၃၈၉ အရ နိုင်ငံသားတိုင်းသည်
ဥပဒေအရ ပေးဆောင်ရမည့် အခွန်အကောက်များကို ပေးဆောင်ရန်တာဝန်ရှိသည်

ပတခ(ကသခ)-၁၇

CDN-51
28.3.0216

## ကုန်သွယ်လုပ်ငန်းခွန် ဥပဒေပုဒ်မ ၁၄ နှင့် ၁၇ တို့အရ အခွန်စည်းကြပ်တောင်းခံလွှာ
## (စည်းမျဉ်း ၁၂ ညွှန်း)

သို့

အမည် Diamond Palace Hotel Co.,Ltd
လိပ်စာ - အမှတ်-၃/ဘီ၊သစ္စာလမ်း၊ရန်ကင်းမြို့နယ်
လုပ်ငန်းရှင်မှတ်ပုံတင်အမှတ်- ..........တခ/၆၄...............

၁။ ..၂၀၁၅-၂၀၁၆.................. စည်းကြပ်နှစ်အတွက် ကျောဘက်တွင် အသေးစိတ်ဖော်ပြထားသော အောက်ဖော်ပြပါငွေကို ပေးဆောင်ရန် အကြောင်းကြားပါသည်။

| | | | | | |
|---|---|---|---|---|---|
| (က) | ကုန်သွယ်လုပ်ငန်းခွန် | ............ | ............ | ၅၅၄၂၈၀၉ | ကျပ် |
| (ခ) | ဒဏ်ငွေ | ............ | ............ | ၅၅၄၂၈၁ | ကျပ် |
| | | | စုစုပေါင်း | ၆၀၉၇၀၉၀ | |

စုစုပေါင်းအခွန် (စာဖြင့်) ခြောက်သန်းကိုးသောင်းခုနှစ်ထောင့်ကိုးဆယ့်ရှစ်ကျပ်တိတိ

၂။ ထိုငွေကို .......ရန်ကုန်............... မြို့ရှိ .......မြန်မာ့စီးပွားရေး........ ဘဏ် ........(၁)၃၁.၃.၂၀၁၆........ နေ့ထက်နောက်မကျစေဘဲ စေလိုပါသည်။ ပူးတွဲပါငွေသွင်းချလန်များဖြင့်ပေးသွင်းပြီးဒု-မူရင်းကိုလက်ခံ အဖြစ်ရယူ ဘဏ်စာရင်းအမှတ် (
) သို့လွှဲပြောင်းပေးသွင်း

၃။ အထက်အပိုဒ်(၁)တွင် ဖော်ပြထားသော စုစုပေါင်းအခွန်နှင့်ဒဏ်ငွေကို သတ်မှတ်နေ့ မကျော်လွန်မီ ပေးဆောင်ရန် ပျက်ကွက်လျှင် ပုဒ်မ ၂၁ ပုဒ်မခွဲ(စ) အရ အခွန်ငွေ၏ တစ်ဆယ်ရာခိုင်နှုန်းနှင့် ညီမျှသောငွေကို ဒဏ်ငွေအဖြစ် တပ်ရိုက်ခံရမည်ဖြစ်သည့်အပြင် ပုဒ်မ ၂၄ အရယင်းငွေများကို အရကောက်ခံရမည်ဖြစ်သောကြောင့် မပျက်မကွက် ပေးဆောင်စေလိုပါသည်။

၄။ အခွန်ကျပ် ၃၀၀၀၀ ထက်ပိုလျှင် အယူခံခွင့်ရှိပါသဖြင့် အယူခံလိုပါက ဤအခွန်တောင်းခံလွှာရရှိသည့်နေ့မှ တစ်လအတွင်း ပုဒ်မ ၁၉ ပုဒ်မခွဲ(က) မပိုဒ် (၁) အရ ...........................မြို့ရှိ ကုမ္ပဏီများဆိုင်ရာ အခွန်ရုံးဌာနမှူး၊ သို့မဟုတ် တိုင်းဒေသကြီး သို့မဟုတ် ပြည်နယ်အခွန်ဦးစီးဌာနမှူးထံ သတ်မှတ်ထားသော အယူခံလွှာပုံစံဖြင့် ဥပဒေအရ လိုအပ်ချက်များနှင့်အညီ ဆောင်ရွက်ပြီး ပေးပို့ရပါမည်။ ဤအယူခံဝင်လွှာ မတင်သွင်းမီ အခွန်ကို အကျေပေးဆောင်ပြီး ဖြစ်ရပါမည်၊ သို့မဟုတ် ပြည်နယ်အခွန်ဦးစီးဌာနမှူးထံ လျှောက်ထား၍ ၎င်းက ဆုံးဖြတ်သည့်အတိုင်း လိုက်နာဆောင်ရွက်ပြီးဖြစ်ရပါမည်။

ပြည်တွင်းအခွန်များဦးစီးဌာန
စာရေး/တာဝန်ခံ
ရက်
နေ့စွဲ ၂၈.၃.၂၀၁၆
အလတ်စားအခွန်ထမ်းများဆိုင်ရာအခွန်ရုံး(၂)

(စန်းရန်းဝင်း)
သက်မှတ်ဦးစီးအရာရှိ
ကုမ္ပဏီများ/မြို့နယ်အခွန်ဦးစီးဌာနမှူး
အလယ်အလတ်အခွန်ထမ်းများဆိုင်ရာအခွန်ရုံး(၂)
..............................မြို့နယ်။

ပြည်ထောင်စု သမ္မတ မြန်မာနိုင်ငံတော် အစိုးရ

# ဟိုတယ်နှင့် ခရီးသွားလာရေးလုပ်ငန်း ဝန်ကြီးဌာန

ဟိုတယ်နှင့် ခရီးသွား ညွှန်ကြားမှု ဦးစီးဌာန



## ဟိုတယ်နှင့် တည်းခိုရိပ်သာ လုပ်ငန်း လိုင်စင်

လိုင်စင်အမှတ် ဟ-၁၃၆၁ (သက်တမ်းတိုး)

ထုတ်ပေးသည့်နေ့စွဲ ၂၂-၆-၂၀၁၄

၁။ မန္တလေး ပြည်နယ် /တိုင်းဒေသကြီး မိတ္ထီလာ မြို့/မြို့နယ်ရှိ ဦး/ဒေါ်/အဖွဲ့အစည်း ဦးထိန်းသန်း (ဥက္ကဋ္ဌ) DIAMOND PALACE HOTEL CO.,LTD. (နိုင်ငံသားစိစစ်ရေးကတ်အမှတ်/အမျိုးသားမှတ်ပုံတင်အမှတ်/နိုင်ငံခြားသားမှတ်ပုံတင်အမှတ်/အဖွဲ့အစည်း မှတ်ပုံတင်အမှတ် ၁၂/လသန(နိုင်)၁၃၁၅၇၆ [illegible]) အား ဟိုတယ်နှင့်တည်းခိုရိပ်သာ လုပ်ငန်းလုပ်ကိုင်ရန် ခွင့်ပြုလိုက်သည်။

(က) လုပ်ငန်းအမည် မိတ္ထီလာဟိုတယ် (၄၄) ခန်း

(ခ) လုပ်ငန်းအမျိုးအစား ဟိုတယ်နှင့်တည်းခိုရိပ်သာလုပ်ငန်း (ဟိုတယ်)

(ဂ) လုပ်ငန်းဌာန /နေရပ်လိပ်စာ ရန်ကုန်-မန္တလေးလမ်း၊ ကြည်ကုန်း၊ မိတ္ထီလာမြို့၊ မန္တလေးတိုင်းဒေသကြီး။

(ဃ) လုပ်ငန်းရုံးခွဲ ....................

၂။ လိုင်စင်သက်တမ်း ကုန်ဆုံးသည့်နေ့ ၂၁-၆-၂၀၁၆

၃။ လုပ်ငန်းလိုင်စင်ရရှိသူသည် ပူးတွဲပါစည်းကမ်းချက်များကို လိုက်နာရမည်။

(အောင်ဇော်ဝင်း)

ညွှန်ကြားရေးမှူးချုပ်

## ဟိုတယ်နှင့်တည်းခိုရိပ်သာလုပ်ငန်းလိုင်စင်ဆိုင်ရာ စည်းကမ်းချက်များ

၁။ လိုင်စင်ကို ဟိုတယ် (သို့မဟုတ်) တည်းခိုရိပ်သာ၏ ဧည့်ကြိုကောင်တာ (သို့မဟုတ်) ထင်ရှားမြင်သာသောနေရာတွင် ချိတ်ဆွဲထားရမည်။

၂။ ဤလိုင်စင်သည် လိုင်စင်ပါစီးပွားရေးလုပ်ငန်းတစ်ခုတည်းအတွက်သာ ခွင့်ပြုထားခြင်းဖြစ်သည်။

၃။ လိုင်စင်တွင်ဖော်ပြထားသည့် အမည်မှတစ်ပါး အခြားအမည်ဖြင့်လုပ်ကိုင်ဆောင်ရွက်ခြင်းမပြုရ။

၄။ မိမိရရှိထားသောလိုင်စင်ကို အခြားသူတစ်ပါးအား လွှဲပြောင်းပေးခြင်း၊ ရောင်းချခြင်း၊ အပ်နှံခြင်းမပြုရ။

၅။ ပျက်ပြယ်သောလိုင်စင်ဖြင့် လုပ်ငန်းကို ဆက်လက်လုပ်ကိုင်ဆောင်ရွက်ခြင်းမပြုရ။

၆။ ဟိုတယ်နှင့် တည်းခိုရိပ်သာအတွင်း လောင်းကစားခြင်း၊ မူးယစ်ဆေးဝါးရောင်းဝယ်ခြင်း၊ သုံးစွဲခြင်းနှင့် အခြားတည်ဆဲဥပဒေနှင့် မလွတ်ကင်းသည့် ကိစ္စရပ်များပြုလုပ်ခြင်း မပြုရ။

၇။ ဟိုတယ်နှင့် တည်းခိုရိပ်သာအတွင်း ပြည့်တန်ဆာလုပ်ငန်းနှင့် ပတ်သက်သည့် လုပ်ငန်းရပ်များအား အားပေးခြင်း၊ လုပ်ဆောင်ခြင်း မပြုရ။

၈။ သက်ဆိုင်ရာမှ ခွင့်ပြုချက်မရဘဲ ဟိုတယ်နှင့် တည်းခိုရိပ်သာအတွင်း အများပြည်သူအတွက် ဧည့်ခံဖျော်ဖြေပွဲများ စီစဉ်ကျင်းပခြင်း မပြုရ။

၉။ နိုင်ငံခြားငွေကြေးများကို တရားမဝင်လက်ခံခြင်း၊ ရောင်းဝယ်ခြင်း မပြုရ၊

၁၀။ နိုင်ငံတော်၏တည်ဆဲဥပဒေများကို ဖောက်ဖျက်ကျူးလွန်စေရန် တိုက်တွန်းခြင်း၊ အားပေးခြင်း၊ ပူးပေါင်းဆောင်ရွက်ခြင်း မပြုရ။

၁၁။ မြန်မာနိုင်ငံ ဟိုတယ်နှင့်ခရီးသွားလာရေးဥပဒေနှင့် လုပ်ထုံးလုပ်နည်းများအရ စစ်ဆေးရေးအဖွဲ့က စစ်ဆေးခြင်းကို ခွင့်ပြုရမည်။

၁၂။ လိုင်စင်၊ ဟိုတယ်(သို့မဟုတ်)တည်းခိုရိပ်သာပိုင်ဆိုင်မှုတို့အတွက် အငြင်းပွားမှုများဖြစ်ပွားပါက မြန်မာနိုင်ငံ ဟိုတယ်နှင့်ခရီးသွားလာရေးဥပဒေနှင့်အညီအရေးယူဆောင်ရွက်မှုကိုလိုက်နာရမည်။

<u>လျှို့ဝှက်</u>

**ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အစိုးရ**

**ပြည်ထောင်စုရှေ့နေချုပ်ရုံး**

**နေပြည်တော်**

စာအမှတ်၊ ၂(၅) ၃ -သ/နပတ( ၉၄ )

ရက်စွဲ၊ ၂၀၁၆ ခုနှစ်၊ ဇန်နဝါရီလ ၂၉ ရက်

အကြောင်းအရာ။ **မိတ္ထီလာဟိုတယ် ငှားရမ်းသည့်စာချုပ်အား ပြင်ဆင်မည့် ပြင်ဆင်ချက်သဘောတူစာချုပ်(မူကြမ်း) အပေါ် သဘောထားမှတ်ချက်ပြန်ကြားပေးနိုင်ပါရန်ကိစ္စ**

ရည်ညွှန်းချက်။ ဟိုတယ်နှင့် ခရီးသွားညွှန်ကြားမှုဦးစီးဌာန၏ ၂၁-၁၂-၂၀၁၅ ရက်စွဲပါစာအမှတ်၊ စ-၄၉/ ဟတလ / ၂၀၁၅ (၁၆၇၀)

၁။ ဟိုတယ်နှင့် ခရီးသွားလာရေးလုပ်ငန်းဝန်ကြီးဌာန၊ ဟိုတယ်နှင့် ခရီးသွားညွှန်ကြားမှုဦးစီးဌာနပိုင်၊ မန္တလေးတိုင်းဒေသကြီး၊ မိတ္ထီလာမြို့၊ ရန်ကုန် - မန္တလေးလမ်းမကြီး၊ မိုင်တိုင် ၃၄၀/ခ မှ ၃၄၁/ခ အကြားလက်ဝဲဘက်ရှိ မိတ္ထီလာဟိုတယ်အား Diamond Palace Co.,Ltd သို့တစ်နှစ်ငှားရမ်းခ ကျပ်(၂၀)သန်းဖြင့်(၁-၄-၂၀၀၅ မှ ၃၁-၃-၂၀၂၀) အထိ (၁၅)နှစ်သက်တမ်းငှားရမ်းလုပ်ကိုင်ခွင့်ပြုခဲ့ရာမှ နှစ်ရှည်ငှားရမ်းဆောင်ရွက်ရန်အတွက် ပြင်ဆင်သည့် ပြင်ဆင်ချက်စာချုပ်ချုပ်ဆိုရန် စာချုပ်(မူကြမ်း) အား သဘောထားမှတ်ချက်ပြန်ကြားပေးနိုင်ပါ ရန် ရည်ညွှန်းချက်ပါစာဖြင့် ပေးပို့လာသောကိစ္စဖြစ်ပါသည်။

၂။ ရည်ညွှန်းချက်ပါစာဖြင့် ပေးပို့လာသော ပြင်ဆင်ချက်သဘောတူစာချုပ်(မူကြမ်း) အား လေ့လာစိစစ်ရာ ယင်းစာချုပ်(မူကြမ်း)ပါ စည်းကမ်းချက်များ ရှင်းလင်းမှုမရှိသောကြောင့် ၉-၁-၂၀၁၆ ရက်နေ့တွင် ညွှန်ကြားရေးမှူးမှ ဟိုတယ်နှင့် ခရီးသွားလာရေးလုပ်ငန်းဝန်ကြီးဌာန၊ ဟိုတယ်နှင့် ခရီးသွားညွှန်ကြားမှုဦးစီးဌာနသို့ ဖုန်းဖြင့်ဆက်သွယ်ပြီး စာချုပ်ပါစည်းကမ်းချက်များအား တာဝန်ရှိသူတစ်ဦးမှ လာရောက်ရှင်းလင်းဆွေးနွေးပေးပါရန် အကြောင်းကြားခဲ့ရာ ၂၀-၁-၂၀၁၆ ရက်နေ့၊ နေ့လည် (၂:၀၀)နာရီအချိန်ခန့်တွင် ဟိုတယ်နှင့်

လာရောက်တွေ့ဆုံ၍ စာချုပ်(မူကြမ်း)ပါ အချို့စည်းကမ်းချက်များအား ပယ်ဖျက်အစားထိုးလိုကြောင်း၊ ပေးပို့ခဲ့သည့်စာချုပ်(မူကြမ်း)အပေါ် ပြင်ဆင်ပြီး၊ ပြင်ဆင်ပြီးသော စာချုပ်(မူကြမ်း)အသစ်အား ပြန်လည် အစားထိုးပေးပို့မည်ဖြစ်ပါကြောင်း ဆွေးနွေးပြောကြားခဲ့ပါသည်။

၃။ ၂၅-၁-၂၀၁၆ ရက်နေ့တွင် အစားထိုးပေးပို့လာသော ပြင်ဆင်ချက်သုံးသောတူစာချုပ် (မူကြမ်း)အား လက်ခံရရှိပြီး ယင်းစာချုပ်(မူကြမ်း)အပေါ် ဥပဒေရှုထောင့်မှ လေ့လာစိစစ်ပြီး အောက်ပါ အတိုင်း သုံးသပ်အကြံပြုပြန်ကြားအပ်ပါသည် -

(က) စာချုပ်(မူကြမ်း) ရည်ရွယ်ချက်ခေါင်းစဉ်အောက်ရှိအပိုဒ်ခွဲ(ဂ)တွင် "ဟိုတယ်ငှားရမ်းလုပ်ကိုင်သူမှ မိတ္တီလာဟိုတယ်အား------------" ဟု ဖော်ပြထားပါသည်။ စာချုပ်ပါလုပ်ငန်းကိုလုပ်ကိုင်ရန်ခွင့်ပြုမည့်သူ (ဟိုတယ်နှင့် ခရီးသွားလာရေး လုပ်ငန်းဝန်ကြီးဌာန)အား အငှားချထားသူဟုလည်းကောင်း၊ လုပ်ကိုင်မည့်သူ (Diamond Palace Co.,Ltd)အား အငှားချထားခြင်းခံရသူဟု လည်းကောင်း ခေါ်ဆိုမည်ဖြစ်ကြောင်း ဖော်ပြထားရာ ဟိုတယ်ငှားရမ်းလုပ်ကိုင်သူဆိုသည့် စကားရပ်အစား စာချုပ်ဝင်အပိုဒ်တွင် ရည်ညွှန်းထားသည့်အတိုင်း ရည်ညွှန်း သုံးစွဲရန်အတွက် ဌာနမှ တာဝန်ယူစိစစ်ရန်ဖြစ်ပါသည်၊

(ခ) စာချုပ်(မူကြမ်း) အပိုဒ် ၁ တွင် မူလစာချုပ်ပါ ငှားရမ်းသည့်ကာလသက်တမ်း အား ကနဦးနှစ်(၅၀)ဟု ဖော်ပြထားပါသည်။ မူလစာချုပ်အပိုဒ် ၄ တွင် ငှားရမ်း သည့်ကာလသက်တမ်းအား ၁-၄-၂၀၀၅ မှစတင်၍ ကနဦး(၁၀)နှစ်နှင့် နောက်ထပ်(၅)နှစ်ကို (၁)နှစ်(၁)ကြိမ်တိုး၍ စုစုပေါင်း(၁၅)နှစ် သတ်မှတ်ပါ မည်ဟုလည်းကောင်း ဖော်ပြထားသည်ကို တွေ့ရှိရပါသည်၊ သို့ပါ၍ မူလ စာချုပ်အရ ကနဦးငှားရမ်းကာလသည် ၃၁-၃-၂၀၁၅ ရက်နေ့၌ ကုန်ဆုံးသွားပြီ ဖြစ်ပါသည်။ ၃၁-၃-၂၀၁၅ ရက်နေ့၌ ကုန်ဆုံးခဲ့သော ငှားရမ်းကာလသက်တမ်း အား ယခု ၂၀၁၆ ခုနှစ်ရောက်မှ တိုးမြှင့်ပြင်ဆင်မည်ဖြစ်ကြောင်း တွေ့ရှိရသဖြင့်

ဌာနအနေဖြင့် မူလစာချုပ်ပါ ငှားရမ်းကာလမကုန်ဆုံးမီ ကြိုတင်၍ ဆောင်ရွက်သင့်ပါကြောင်း အကြံပြုအပ်ပါသည်၊

(ဂ) စာချုပ်(မူကြမ်း) အပိုဒ် ၃ တွင် မူလစာချုပ်အပိုဒ် ၅ ၌ပါရှိသည့် ငှားရမ်းခနှုန်းထားအားအစားထိုးပြင်ဆင်မည့်စည်းကမ်းချက်၏အပိုဒ်ခွဲ (ဂ)တွင် မြေအသုံးချမှုပရီမီယံကြေးပေးသွင်းခြင်းနှင့်စပ်လျဉ်း၍ လည်းကောင်း၊ စာချုပ်(မူကြမ်း) အပိုဒ် ၄ တွင် မူလစာချုပ် အပိုဒ် ၆ ၌ပါရှိသည့် ငှားရမ်းခပေးသွင်းခြင်းအား အစားထိုးပြင်ဆင်မည့် စည်းကမ်းချက်တွင် မြေအသုံးချမှုပရီမီယံကြေး ပေးသွင်းရမည့်စည်းကမ်းချက်ကိုလည်းကောင်း ရောထွေးစွာ ဖော်ပြထားသည်ကို တွေ့ရှိရပါသည်။ သို့ပါ၍ မြေအသုံးချမှုပရီမီယံကြေး စည်းကမ်းချက်အား ယခုစာချုပ်(မူကြမ်း)တွင် ထည့်သွင်းဖော်ပြမည်ဆိုပါက သီးခြားခေါင်းစဉ်ဖြင့် မူလစာချုပ်၏ မည်သည့်စာပိုဒ်အောက်တွင် ထပ်မံဖြည့်စွက်မည်ဖြစ်ကြောင်း ထည့်သွင်းဖော်ပြသင့်ပါသည်။ ဌာနမှ ပြန်လည်စိစစ်သင့်ပါသည်၊

(ဃ) စာချုပ်(မူကြမ်း) အပိုဒ် ၃ ပါ မူလစာချုပ်အပိုဒ် ၅ အား အစားထိုးပြင်ဆင်သည့် အပိုဒ်ခွဲ (ဃ)တွင် စပေါ်ငွေပေးသွင်းရမည်ဖြစ်ကြောင်း ဖော်ပြထားရာ မူလစာချုပ်အပိုဒ် ၇ တွင် လုပ်ငန်းအာမခံငွေပေးသွင်းခြင်းနှင့် စပ်လျဉ်းသည့် စည်းကမ်းချက်အား ဖော်ပြထားသောကြောင့် မူလစာချုပ်ပါ စည်းကမ်းချက်နှင့် ယခုပြင်ဆင်ချက်စာချုပ်(မူကြမ်း)တွင် ထပ်မံဖြည့်စွက်မည့် စည်းကမ်းချက်များ မထပ်စေရေးအတွက် ဌာနမှ ပြန်လည်စိစစ်သင့်ပါသည်၊

(င) စာချုပ်(မူကြမ်း)အပိုဒ် ၃ တွင်ပါရှိသည့် မူလစာချုပ်အပိုဒ် ၅ အား အစားထိုးပြင်ဆင်မည့် အပိုဒ်ခွဲ (င)တွင် "စာချုပ်တံဆိပ်ခေါင်းခွန်နှင့် ပတ်သက်၍ အငှားချထားသူက ပေးဆောင်ရမည်" ဟုဖော်ပြထားသည်ကို တွေ့ရှိရပါသည်။ ယင်းစည်းကမ်းချက်သည် ငှားရမ်းခနှုန်းထားခေါင်းစဉ်နှင့် သက်ဆိုင်ခြင်း မရှိ

ပါသဖြင့် ယင်းနှင့်သက်ဆိုင်သော အငှားချထားသူ၏ တာဝန်များခေါင်းစဉ်တွင်သာ ပြင်ဆင်မည့် စည်းကမ်းချက်အဖြစ် ထည့်သွင်းဖော်ပြသင့်ပါသည်။ ဌာနမှ ပြန်လည်စိစစ်သင့်ပါသည်၊

(စ) စာချုပ်(မူကြမ်း) အပိုဒ် ၅ ပါ မူလစာချုပ်အပိုဒ် ၈ အား အစားထိုးပြင်ဆင်သည့် စည်းကမ်းချက်တွင် "နှစ်စဉ်ငှားရမ်းခကျပ်သန်း (၅၅)ကို တစ်နှစ်လျှင် (၄) ကြိမ် ခွဲ၍ ပေးသွင်းရမည်ဖြစ်ပြီး --------- ပေးဆောင်ရမည်" ဟုလည်းကောင်း၊ စာချုပ်(မူကြမ်း) အပိုဒ် ၃ တွင် မူလစာချုပ်အပိုဒ် ၅ အား အစားထိုးပြင်ဆင်မည့် အပိုဒ်ခွဲ(က)၌ **"နှစ်စဉ်ငှားရမ်းခတစ်နှစ်လျှင် ကျပ်သန်း(၅၅)တိတိကို သို့မဟုတ် စုစုပေါင်းဝင်ငွေ၏ (၅%)အနက် များရာကိုပေးသွင်းရမည်"** ဟုလည်းကောင်း ဖော်ပြထားရာ ငှားရမ်းခနှုန်းထားသတ်မှတ်ခြင်းအား အမျိုးမျိုးဖော်ပြထားပြီး တိကျမှုမရှိပါသဖြင့် ဌာနမှ ပြန်လည်စိစစ်ရန်လိုအပ်ပါသည်၊

(ဆ) စာချုပ်(မူကြမ်း) အပိုဒ် ၅ ပါ မူလစာချုပ်အပိုဒ် ၈ အား အစားထိုးပြင်ဆင်သည့် စည်းကမ်းချက်တွင် ပေးသွင်းရမည့် နှစ်စဉ်ငှားရမ်းခအချိန်မှီပေးသွင်းခြင်း မပြုပါ က ကျော်လွန်သည့်တစ်ရက်လျှင် ပေးချေရမည့်ငွေ၏ ၁% နှင့်ညီမျှသော ဒဏ်ကြေးငွေကို အငှားချထားခြင်းခံရသူမှ ပေးဆောင်ရမည်ဖြစ်ကြောင်း ဖော်ပြထားသည်ကို တွေ့ရှိရပါသည်။ ငှားရမ်းခပေးသွင်းရန် နောက်ကျသည့် ရက်အား ရက်ပေါင်းမည်မျှအထိသာ ခွင့်ပြုမည်ဖြစ်ကြောင်း အချိန်ကာလမပါရှိသဖြင့် ထည့်သွင်းဖော်ပြသင့်ပါသည်၊

(ဇ) စာချုပ်(မူကြမ်း) အပိုဒ် ၆ တွင် ရင်းနှီးမြှုပ်နှံမှုပမာဏခေါင်းစဉ်အား ထပ်မံဖြည့်စွက်မည်ဖြစ်ကြောင်း တွေ့ရှိရသော်လည်း စာချုပ်(မူကြမ်း)၏ အပိုဒ်မည်သည့်အဖြစ် ဖြည့်စွက်မည်ကို ဖော်ပြထားခြင်းမရှိသဖြင့်ထည့်သွင်းဖော်ပြရန် လိုအပ်ပါသည်၊

(ဈ) စာချုပ်(မူကြမ်း)အပိုဒ် ၆ မူလစာချုပ်တွင် ထပ်မံဖြည့်စွက်ဖော်ပြမည့် စည်းကမ်းချက်၌ "အငှားချထားခြင်းခံရသူသည် အဆိုပြုတင်ပြထားသည့် စာချုပ်ပါ အဆောက်အဦအကွက်ချပုံစံ (Site Plan) ------------ အတိုင်း ဆောက်လုပ်ရမည် ဖြစ်ပြီး ပြောင်းလဲပြင်ဆင်ဆောက်လုပ်လိုပါက --------- ဆောက်လုပ်ခွင့်ရှိသည်" ဟုဖော်ပြထားသည်ကို တွေ့ရှိရပါသည်။ စာချုပ်(မူကြမ်း)၏ ရည်ရွယ်ချက်အပိုဒ် (ဂ)တွင် မူလစာချုပ်ပါ ငှားရမ်းသက်တမ်းနှင့် စာချုပ်သက်တမ်းတို့အား တိုးမြှင့်ပြင်ဆင်သတ်မှတ်လို၍ ချုပ်ဆိုခြင်းဖြစ်ကြောင်း တွေ့ရှိရသဖြင့် မူလစာချုပ်ပါ ငှားရမ်းမည့်ဟိုတယ်နှင့် မြေနေရာတွင် အဆောက်အဦသစ်ထပ်မံဆောက်လုပ်မည်ဆိုပါက ယခုစာချုပ်(မူကြမ်း)၏ ရည်ရွယ်ချက်တွင် အဆိုပါကိစ္စအား ထည့်သွင်းဖော်ပြရန်သင့်ပါသည်။ ထို့ပြင် အငှားချထားခြင်းခံရသူက အဆိုပြုတင်ပြထားသည့် စာချုပ်ပါအဆောက် အဦအကွက်ချပုံစံ (Site Plan)၊ အဆောက်အဦအမျိုး အစားအလိုက်၏ အရေ အတွက်နှင့်ပုံစံ(Drawing) များကို ယခုပြင်ဆင်ချက်စာချုပ်တွင် နောက်ဆက်တွဲ (   )အဖြစ် ပူးတွဲထားရှိရန် လိုအပ်ပါသည်။ ယင်းသို့ပူးတွဲထားသော နောက်ဆက်တွဲများသည် စာချုပ်၏ တစ်စိတ်တစ်ဒေသဖြစ်စေရမည့်ဟူသော စည်းကမ်းချက်ကိုလည်း ပြင်ဆင်ချက် စာချုပ်၌ ထည့်သွင်းဖော်ပြသင့်ပါသည်

(ည) စာချုပ်(မူကြမ်း) အပိုဒ် ၇ ပါ မူလစာချုပ်အပိုဒ် ၁၅ အား အစားထိုးပြင်ဆင်မည့် စည်းကမ်းချက်တွင် စာချုပ်သက်တမ်းကိုသာဖော်ပြထားပြီး စာချုပ်သက်တမ်း တိုးမြှင့်ခြင်းအား ဖော်ပြမထား၍ ဖော်ပြရန်လိုအပ်ပါသည်။ စာချုပ်သက်တမ်းတိုး မြှင့်ခြင်းသည် မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ တိုးမြှင့်ရန် လိုအပ်ပြီး ငှားရမ်းကာလတိုးမြှင့်ခြင်းနှင့်လည်း ကိုက်ညီရန်လိုအပ်ပါသည်။ ထို့ပြင် ယင်းစည်းကမ်းချက်တွင် "သို့သော် အငှားချထားခြင်းခံရသူ၏ ငှားရမ်းခ ငွေများအား သတ်မှတ်ထားသည့် အချိန်အတွင်း ပေးသွင်းရန်ပျက်ကွက်ခြင်း

ပြုလျှင် နှစ်ဦးသဘောတူစာချုပ်အလိုအလျောက်ပျက်ပြယ်ကြောင်း နှစ်ဦးသဘောတူထည့်သွင်းချုပ်ဆိုပါသည်" ဟုဖော်ပြထားရာ ယင်းစည်းကမ်းချက်သည် စာချုပ်သက်တမ်းကုန်ဆုံးခြင်း စည်းကမ်းချက် ခေါင်းစဉ်နှင့် ကိုက်ညီမှုမရှိဟု ယူဆပါသဖြင့် ယင်းစည်းကမ်းချက်အား စာချုပ်(မူကြမ်း) အပိုဒ် ၅ မူလစာချုပ်၏ ဒဏ်ကြေးသတ်မှတ်ခြင်း ခေါင်းစဉ်တွင် အစားထိုးပြင်ဆင်မည့် စည်းကမ်းချက်၌ ပြင်ဆင်မည့်စည်းကမ်းချက်အဖြစ် ထည့်သွင်းဖော်ပြပါက ပိုမိုသင့်တော်မည်ဟု ယူဆပါသည်။ ထို့ပြင် "စာချုပ်ပါစည်းကမ်းချက်တစ်ခုခုကို ဖောက်ဖျက်ခြင်းပြုလျှင် ---------- ထည့်သွင်းချုပ်ဆိုပါသည်" ဟုဖော်ပြထားရာ ယင်းစည်းကမ်းချက်နှင့် စပ်လျဉ်း၍ မူလစာချုပ်အပိုဒ် ၁၇(ခ)တွင် စာချုပ်ဝင်တစ်ဖက်ဖက်မှ စာချုပ်ပါစည်းကမ်းချက်များကို လိုက်နာရန်ပျက်ကွက်ပါက စာချုပ်ရုပ်စဲနိုင်ကြောင်း ဖော်ပြထားပြီးဖြစ်သဖြင့် ယခုပြင်ဆင်ချက်စာချုပ်(မူကြမ်း)တွင် ယင်းစာသားအား ထည့်သွင်းဖော်ပြရန် မလိုအင်ဟု ယူဆပါ၍ ပယ်ဖျက်သင့်ပါသည်။ ဌာနမှ ပြန်လည်စိစစ်ရန်လိုအပ်ပါသည်၊

(ဃ) စာချုပ်(မူကြမ်း) အပိုဒ် ၇ ပါ မူလစာချုပ်အပိုဒ် ၁၅ အား အစားထိုးပြင်ဆင်မည့် စည်းကမ်းချက် အပိုဒ်ခွဲ (ခ)သည် လုပ်ငန်းအာမခံငွေနှင့် စပ်လျဉ်းသည့် စည်းကမ်းချက်ဖြစ်ကြောင်း တွေ့ရှိရသဖြင့် ယင်းစည်းကမ်းချက်အား သက်ဆိုင်ရာခေါင်းစဉ်အောက်၌သာ ပြင်ဆင်မည့် စည်းကမ်းချက်အဖြစ် ထည့်သွင်းဖော်ပြသင့်ပါသည်။ ဌာနမှ ပြန်လည်စိစစ်ရန် လိုအပ်ပါသည်၊

(င) စာချုပ်(မူကြမ်း) အပိုဒ် ၁၀ တွင် "ဤပြင်ဆင်ချက်သဘောတူစာချုပ်သည် ၁-၄-၂၀၁၅ ရက်နေ့မှစတင်၍ အကျိုးသက်ရောက်စေရမည်" ဟုဖော်ပြထားပါသည်။ အဆိုပါရက်စွဲမှာ မူလစာချုပ်ချုပ်ဆိုသည့်နေ့ဖြစ်ပြီး မူလစာချုပ်စတင်အကျိုးသက်ရောက်သည့်နေ့ဖြစ်သဖြင့် <u>ယခုပြင်ဆင်ချက်စာချုပ်အကျိုးသက်</u>

ရောက်သည့်နေ့မှာ ပြင်ဆင်ချက်စာချုပ်လက်မှတ်ရေးထိုးချုပ်ဆိုသည့်နေ့ ဖြစ်ရပါမည်။ ဌာနမှ ပြန်လည်စိစစ်ရန်ဖြစ်ပါသည်၊

(ဍ) ရည်ညွှန်းချက်ပါစာ၏အပိုဒ် ၂ တွင် "---------- နှစ်ရှည်ငှားရမ်းဆောင်ရွက်ခွင့်ပြုရန်အတွက် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ တင်ပြခွင့်ပြုချက်တောင်းခံထားပါသည်" ဟုလည်းကောင်း၊ အပိုဒ် ၃ တွင် " မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ခွင့်ပြုချက်ရရှိပါက မိတ္ထီလာဟိုတယ်(နှစ်ရှည်)ငှားရမ်းခြင်းအတွက် Diamond Palace Co.,Ltd နှင့် စာချုပ်ပြန်လည်ချုပ်ဆိုမည်ဖြစ်ပါသဖြင့် ------------" ဟုလည်းကောင်း ဖော်ပြထားရာ စာချုပ်ချုပ်ဆိုမည့်အချိန်တွင် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ခွင့်ပြုချက်ရရှိပြီးဖြစ်ရန် လိုအပ်ပါသည်၊

(ဎ) စာချုပ်(မူကြမ်း)တွင် အငှားချထားသည့် ဟိုတယ်နှင့်မြေတွင် အဆောက်အဦသစ်ထပ်မံဆောက်လုပ်မည်ဆိုပါက ယင်းအဆောက်အဦနှင့် စပ်လျဉ်း၍ လုပ်ငန်းအာမခံငွေအား ထပ်မံရယူရန် သင့် မသင့် ဌာနမှ စဉ်းစားသင့်ပါသည်၊

(ဏ) စာချုပ်(မူကြမ်း)ပါ ကွက်လပ်များကို စာချုပ်ချုပ်ဆိုချိန်၌ ပြည့်စုံစွာ ဖြည့်စွက်ဖော်ပြထားပြီးဖြစ်ရန် လိုအပ်ပါသည်၊

(တ) လိုအပ်သောနေရာများ၌ မင်နီဖြင့် ပြင်ဆင်ပေးလိုက်ပါသည်။

၄။ ဤပြင်ဆင်ချက်စာချုပ်(မူကြမ်း)ကို ပြည်ထောင်စုရှေ့နေချုပ် ဥပဒေနှင့်အညီ ဥပဒေကြောင်းအရသာ ဥပဒေအကြံဉာဏ်ပေးခြင်းဖြစ်ပါသည်။ ဥပဒေရေးရာမဟုတ်သည့် စီမံရေးရာ၊ ဘဏ္ဍာရေးရာ၊ ကျွမ်းကျင်မှုဆိုင်ရာကိစ္စရပ်များကိုဤရုံးအနေဖြင့် မှတ်ချက်ပေးရန်မရှိပါကြောင်းနှင့် ယင်းကိစ္စရပ် များနှင့်စပ်လျဉ်း၍ သက်ဆိုင်ရာကျွမ်းကျင်သူများနှင့် ဆွေးနွေးညှိနှိုင်းဆောင်ရွက်ရန် အကြံပြုပါ သည်။

၅။ ဤပြင်ဆင်ချက်စာချုပ်(မူကြမ်း)ကို လက်မှတ်ရေးထိုးချုပ်ဆိုပြီးပါက မှတ်တမ်းတင်ထားနိုင်ရန် အတွက် ဤရုံးသို့ မိတ္တူ (၃)စောင်ပေးပို့ရန် မေတ္တာရပ်ခံအပ်ပါသည်။

၆။ ဤအကြံပြုချက်ကို လျှို့ဝှက်အဆင့်သတ်မှတ်ဆောင်ရွက်ရန်ဖြစ်ပါသည်။

( ကျော်ဆန်း )
ညွှန်ကြားရေးမှူးချုပ်(တာဝန်)

ဟိုတယ်နှင့် ခရီးသွားညွှန်ကြားမှုဦးစီးဌာန
ဟိုတယ်နှင့်ခရီးသွားလာရေးလုပ်ငန်းဝန်ကြီးဌာန

မိတ္တူ - ရုံးလက်ခံ / မျှောစာတွဲ

## ဟိုတယ်နှင့်ခရီးသွားညွှန်ကြားမှုဦးစီးဌာနပိုင် မိတ္ထီလာဟိုတယ်

## မြေ (၃၈.၈၈) ဧကနှင့် အဆောက်အဦအား ငှားရမ်းခြင်းအတွက် မူလစာချုပ်အား

## ဖြည့်စွက်ပြင်ဆင်သည့် ပြင်ဆင်ချက်သဘောတူစာချုပ်(မူကြမ်း)

**စာချုပ်ချုပ်ဆိုသူများ**

ဤမူလစာချုပ်အား ပြင်ဆင်သည့်ပြင်ဆင်ချက်သဘောတူစာချုပ် (နောင်တွင် " ပြင်ဆင်ချက် သဘောတူစာချုပ်"ဟုရည်ညွှန်းခေါ်ဆိုမည်ဖြစ်သည်) ကို ၂၀၁၆ ခုနှစ်၊ လ ( )ရက်နေ့၌ ညွှန်ကြားရေးမှူးချုပ် ဦးတင့်သွင် ၊ နိုင်ငံသားစိစစ်ရေးကဒ်အမှတ် (၁၃/တယန(နိုင်)၀၀၃၃၆၇) ကိုယ်စားပြုသော ဟိုတယ်နှင့်ခရီးသွားညွှန်ကြားမှုဦးစီးဌာန၊ ဟိုတယ်နှင့်ခရီးသွားလာရေးလုပ်ငန်း ဝန်ကြီးဌာန ( နောင်တွင် " အငှားချထားသူ " ဟုခေါ်ဆိုမည်ဖြစ်ပြီး ယင်းစကားရပ်တွင် ၎င်းအား ဆက်ခံသူများနှင့် ဥပဒေအရလွှဲအပ် ခံရသူတို့ပါဝင်သည်) က တစ်ဖက်

နှင့်

ဦးသိန်းသန်း၊ အုပ်ချုပ်မှုဒါရိုက်တာ၊ နိုင်ငံသားစိစစ်ရေးကဒ်အမှတ် (၁၂/လကန(နိုင်) ၁၃၁၅၀၁) ကိုယ်စားပြုသော အမှတ်(၃/ခ)၊ သစ္စာလမ်း၊ ရန်ကုန်မြို့တွင်တည်ရှိသည့် Diamond Place Hotel Co.,Ltd ( နောင်တွင် "အငှားချထားခြင်းခံရသူ"ဟုခေါ်ဆိုမည်ဖြစ်ပြီး ယင်းစကားရပ်တွင် ၎င်းအားဆက်ခံသူများ တရားဝင်ကိုယ်စားလှယ်များနှင့် ဥပဒေအရ လွှဲအပ်ခြင်းခံရသူများ ပါဝင်သည်) ကအခြားတစ်ဖက်တို့သည် ဤပြင်ဆင်ချက် သဘောတူစာချုပ်ကိုနှစ်ဖက်သဘောတူ စာချုပ်ချုပ်ဆိုကြပါသည်။

**ရည်ရွယ်ချက်**

၁။ နိုင်ငံတော်၏ ပြုပြင်ပြောင်းလဲလာသောစီးပွားရေးမူဝါဒနှင့်အညီလုပ်ငန်းများ ပိုမိုတိုးတက်အောင်မြင်ဖွံ့ဖြိုးစေရန်အတွက်နိုင်ငံပိုင်ဟိုတယ်များအားပုဂ္ဂလိကလုပ်ငန်းရှင်များသို့နှစ်ရှည်အငှားချထားဆောင်ရွက်စေခြင်းဖြစ်သည်။ထိုသို့ဆောင်ရွက်ရာတွင်နိုင်ငံတော်မှနစ်နာမှုမရှိစေရေးနှင့်ပုဂ္ဂလိကလုပ်ငန်းရှင်မှလည်း၎င်းတို့၏အကျိုးစီးပွားကိုနိုင်ငံအကျိုးနှင့်ယှဉ်၍စနစ်တကျလုပ်ကိုင် ဆောင်ရွက်နိုင်စွမ်းရှိစေရေးအတွက် ဤပြင်ဆင်ချက်သဘောတူ စာချုပ်ကိုချုပ်ဆိုခြင်း ဖြစ်ပါသည် -

(က) အငှားချထားသူနှင့်အငှားချထားခြင်းခံရသူတို့သည် (၁-၄-၂၀၀၅) ရက်နေ့တွင် မန္တလေးတိုင်းဒေသကြီး၊ မိတ္ထီလာမြို့၊ ရန်ကုန်-မန္တလေးလမ်းမကြီး၊ မိုင်တိုင် ၃၄၀/ခ မှ ၃၄၁/ခ အကြားလက်ဝဲဘက်ရှိ မိတ္ထီလာဟိုတယ်ကိုငှားရမ်းသည့် ဟိုတယ်ငှားရမ်း

ခြင်းဆိုင်ရာနှစ်ဖက်သဘောတူစာချုပ် (နောင်တွင် "မူလစာချုပ်" ဟုခေါ်ဆိုမည်ဖြစ်သည်) ကို ချုပ်ဆိုခဲ့ကြပြီး ၊ အဆိုပါ ဟိုတယ်အား နှစ်ရှည်ငှားရမ်းမည်ဖြစ်သဖြင့် ဤပြင်ဆင်ချက်သဘောတူစာချုပ်ကို နှစ်ဘက်သဘောတူချုပ်ဆိုကြပါသည်။

(ခ) မူလစာချုပ်ချုပ်ဆိုစဉ်က မြန်မာ့ဟိုတယ်နှင့်ခရီးသွားလုပ်ငန်းနှင့် ချုပ်ဆိုခဲ့သော်လည်း (၁၅-၁-၂၀၁၅) ရက်နေ့တွင် ပြုလုပ်ခဲ့သည့် ပြည်ထောင်စု အစိုးရအဖွဲ့အစည်းအဝေး အမှတ်စဉ်(၂/၂၀၁၅)မှသဘောတူခွင့်ပြုချက်အရအမြဲတမ်း အတွင်းဝန်တာဝန်ခံ ကွပ်ကဲမည့် ဝန်ကြီးရုံးနှင့်ညွှန်ကြားရေးမှူးချုပ်တာဝန်ခံ ကွပ်ကဲမည့် ဟိုတယ်နှင့် ခရီးသွားညွှန်ကြားမှုဦးစီးဌာန၊ ဌာန (၂) ခုတို့ဖြင့် (၁-၄-၂၀၁၅) ရက်နေ့မှစတင်၍ ပြန်လည်ပြင်ဆင်ဖွဲ့စည်းခဲ့သည့်အတွက်ကြောင့် ဟိုတယ်နှင့်ခရီးသွားညွှန်ကြားမှု ဦးစီးဌာနနှင့် လက်မှတ်ရေးထိုးချုပ်ဆိုရခြင်းဖြစ်ပါသည်။

(ဂ ) ဟိုတယ်ငှားရမ်းလုပ်ကိုင်သူမှမိတ္တီလာဟိုတယ်အားဟိုတယ်ဝန်ဆောင်မှုလုပ်ငန်း အတွက်နှစ်ရှည်ငှားရမ်းခွင့်ပြုပါရန်တင်ပြလာခဲ့ခြင်းအပေါ်ဟိုတယ်နှင့်ခရီးသွားလာရေးလုပ်ငန်းဝန်ကြီးဌာနမှ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ တင်ပြခဲ့ပြီး ကော်မရှင်၏ ခွင့်ပြုချက်အရမူလစာချုပ်ပါ ငှားရမ်းသက်တမ်းနှင့် စာချုပ်သက်တမ်း (၁၅)နှစ်အစား၊ ကနဦး(၅၀)နှစ်နှင့် ကနဦးသက်တမ်းကုန်ဆုံးပါ က မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ခွင့်ပြုချက်ဖြင့်တစ်ကြိမ်လျှင် (၁၀)ဖြင့် သက်တမ်း(၂) ကြိမ်အထိတိုးမြှင့်ပြင်ဆင်သတ်မှတ်သွားလိုခြင်းတို့ကြောင့်ဤပြင်ဆင် ချက်သဘောတူစာချုပ် ကို နှစ်ဖက်သဘောတူချုပ်ဆိုကြပါသည်။

၂။ မူလစာချုပ် "ငှားရမ်းသည့်ကာလသက်တမ်း" ခေါင်းစဉ်အောက်ရှိအပိုဒ်(၄) ကိုပယ်ဖျက်၍ အောက်ပါစာပိုဒ်ဖြင့် အစားထိုးပြင်ဆင်ရမည်-

(၅) ငှားရမ်းသည့် ကာလသက်တမ်းကို မူလစာချုပ်လက်မှတ်ရေးထိုးသည့် ၂၀၀၅ ခုနှစ်၊ ဧပြီလ (၁) ရက်နေ့မှစ၍ ကနဦး(၅၀) နှစ်(၁-၄-၂၀၀၅ မှ ၃၁-၃-၂၀၅၅ ထိ)ငှားရမ်းမည်ဖြစ်ပြီး ကနဦးသက်တမ်းကုန်ဆုံးပါက တစ်ကြိမ်လျှင် (၁၀) ဖြင့် သက်တမ်း (၂) ကြိမ်အထိ တိုးမြှင့်နိုင်မည်ဖြစ်ပါသည်။

၃။ မူလစာချုပ် "ငှားရမ်းခနှုန်းထား"ခေါင်းစဉ်အောက်ရှိ အပိုဒ်(၅) ကိုပယ်ဖျက်၍ အောက်ပါအတိုင်း အစားထိုးပြင်ဆင်ရမည် -

၅(က) နှစ်စဉ်ငှားရမ်းခ တစ်နှစ်လျှင်ကျပ်သန်း (၅၅) (ကျပ်သန်းငါးဆယ်ငါးတိတိ) (သို့မဟုတ်)စုစုပေါင်းဝင်ငွေ၏ (၅%)ယင်းနှစ်ရပ်အနက်များရာကိုပေးသွင်းရမည်။

(ခ) နှစ်စဉ်ငှားရမ်းခကို (၄) နှစ် (လေးနှစ်) တစ်ကြိမ်နှစ်ဖက်ပြန်လည်ညှိနှိုင်းသုံးသပ်ရမည်။တိုးမြှင့်သတ်မှတ်မှု ပမာဏသည် မူလငှားရမ်းခ၏ (၁၀%) ထက်မပိုစေရ။

(ဂ) မြေအသုံးချမှုပရီမီယံကြေးအား ကျပ်သန်း(၂၅၀) ( ကျပ်သန်းနှစ်ရာငါးဆယ်တိတိ) ပေးသွင်းရမည်။

၄။ မူလစာချုပ် "ငှားရမ်းခပေးသွင်းခြင်း" ခေါင်းစဉ်အောက်ရှိ အပိုဒ်(၆)နှင့် အပိုဒ် (၇) တို့တွင် ဖော်ပြပါရှိသည့် စာပိုဒ်ကို ပယ်ဖျက်၍ အောက်ပါအတိုင်း အစားထိုးပြင်ဆင်ရမည်-

၆ နှစ်စဉ်ငှားရမ်းခ တစ်နှစ်လျှင်ကျပ်သန်း (၅၅) (ကျပ်သန်းငါးဆယ်ငါးတိတိ) ကို တစ်နှစ်လျှင်(၄) ကြိမ် ခွဲ၍ ပေးသွင်းရမည်။ ( ၃ ) လအတွက် ကျသင့်ငွေ ကျပ်သန်း (၁၃.၇၅)(ကျပ်တစ်ဆယ့်သုံးဒသမခုနစ်ငါးတိတိ) ကို(၃)လပြည့်ပြီး နောက်လဆန်း (၇)ရက်အတွင်းအငှားချထားသူသတ်မှတ်သည့်နေပြည်တော်၊မြန်မာ့စီးပွားရေးဘဏ် (သို့မဟုတ်) ရန်ကုန်မြို့၊မြန်မာ့စီးပွားရေးဘဏ်ခွဲ(၅)ရှိ ဟိုတယ်နှင့်ခရီးသွားညွှန်ကြားမှုဦးစီးဌာန(ရုံးချုပ်)ဘဏ်စာရင်းသို့ပေးသွင်းရမည်။ဘဏ္ဍာနှစ်တစ်နှစ်၏နောက်ဆုံးလဖြစ်သောမတ်လအတွက် ငှားရမ်းခအား မတ်လ (၂၅) ရက်နေ့ မတိုင်မီကြိုတင်ပေးသွင်းရမည်။ဘဏ္ဍာနှစ်ကုန်ဆုံးပြီးနောက် စုစုပေါင်းဝင်ငွေ၏ (၅%) ကို တွက်ချက်၍ အနည်းဆုံးပေးသွင်းရမည့် နှစ်စဉ်ငှားရမ်းခ ကျပ်သန်း (၅၅) ထက်ပိုမိုနေပါက ဧပြီလအတွင်း ထပ်မံပေးသွင်းရမည့်ငွေပမာဏကို ပေးသွင်းရမည်။

၇ မြေအသုံးချမှု ပရီမီယံကြေးကျပ်သန်း (၂၅၀) ( ကျပ်သန်းနှစ်ရာ့ငါးဆယ်တိတိ) ကို နေပြည်တော်မြန်မာ့စီးပွားရေးဘဏ်(သို့မဟုတ်)ရန်ကုန်မြို့မြန်မာ့စီးပွားရေးဘဏ်ခွဲ(၅)ရှိ ဟိုတယ်နှင့်ခရီးသွားညွှန်ကြားမှုဦးစီးဌာန(ရုံးချုပ်)ဘဏ်စာရင်းသို့ အငှားချထားခြင်း

စံရသူကတစ်လုံးတစ်ခဲတည်းအပြီးပေးသွင်းရမည်။ ပေးသွင်းပြီးမှသာဤပြင်ဆင်ချက်သဘောတူစာချုပ်ကို နှစ်ဖက်ချုပ် ဆိုမည်ဖြစ်သည်။

၅။ မူလစာချုပ် "ငှားရမ်းခပေးသွင်းခြင်း" ခေါင်းစဉ်အောက်ရှိအပိုဒ်(၇)တွင် ဖော်ပြပါရှိသည့်စာပိုဒ်ကို အပိုဒ်(၉-က)အဖြစ်ဖော်ပြရမည်။အောက်ပါစာပိုဒ်ကို အပိုဒ် (၇-ခ) အဖြစ် ဖြည့်စွက်ရမည်-

၇ (ခ ) အာမခံစပေါ်ငွေသည် ငှားရမ်းခကို ခုနှိမ်ရန်မဟုတ်ပါ။

၆။ မူလစာချုပ် "ဒဏ်ကြေးသတ်မှတ်ခြင်း" ခေါင်းစဉ်အောက်ရှိအပိုဒ်( ၈ )တွင်ဖော်ပြပါရှိသည့်စာပိုဒ်ကို ပယ်ဖျက်၍ အောက်ပါအတိုင်း အစားထိုးပြင်ဆင်ရမည်-

၈ (က) ဟိုတယ်ငှားရမ်းခသည် တစ်နှစ်အတွက် ငှားရမ်းခဖြစ်သဖြင့် သတ်မှတ်သည့်တစ်နှစ်အတွင်းပေးဆောင်ရမည်ဖြစ်ပြီး၊ တစ်နှစ်အတွင်းပေးဆောင်ရန် ပျက်ကွက်ပါ က တစ်နှစ်ကုန်ဆုံးပြီးနောက် တစ်ရက်မှစ၍ ဒဏ်ကြေးကောက်ခံပါမည်။

(ခ) ရက်လွန်ဒဏ်ကြေးများမှာ ကျော်လွန်သောရက် တစ်ရက်လျှင် တစ်ရက် ငှားရမ်းခ၏ (၁%) ဖြင့် ကောက်ခံပါမည်။

(ဂ) ဒဏ်ကြေးကောက်ခံသည့် ရက်စုစုပေါင်းသည် တစ်နှစ်အတွက် (၃၆၅)ရက်ထက်မပိုစေသော ကာလအတွက်သာ ကောက်ခံပါမည်။

၇။ မူလစာချုပ် "အငှားချထားခြင်းခံရသူ၏တာဝန်များ"ခေါင်းစဉ်အောက်ရှိ အပိုဒ် (၁၂-ဆ) ကို ပယ်ဖျက်၍ အောက်ပါအတိုင်းအစားထိုးပြင်ဆင်ရမည်-

၁၂(ဆ) အငှားချထားခြင်းခံရသူသည် နိုင်ငံပိုင် မိတ္ထီလာဟိုတယ်အား နှစ်ရှည်ငှားရမ်းလုပ်ကိုင်ခွင့်ပြုထားခြင်းသာဖြစ်ပါသည်။ ဤဟိုတယ်အမည်ပေါက် မြေနေရာအဆောက်အဦနှင့် တစ်ဆက်တစ်စပ်တည်းရှိသော ပစ္စည်းကိရိယာများအားလုံးသည်အငှားချထားသူ၏ပိုင်ဆိုင်မှုသာဖြစ်သည့်အတွက်အငှားချထားသူ၏ကြိုတင်ခွင့်ပြုချက်မရရှိဘဲ ထပ်ဆင့်ငှားရမ်းခြင်း၊ပေါင်နှံခြင်း၊ ရောင်းချခြင်း ၊ အမည်လွှဲပြောင်းပေးခြင်း စသည်တို့ကို လုံးဝမပြုလုပ်ရ။

*မူလစာချုပ် " အငှားချထားခြင်းခံရသူ၏ တာဝန်များ" ခေါင်းစဉ်အောက်တွင်*
*အပိုဒ် (ဒ) အဖြစ် ထပ်မံဖြည့်စွက်ပါမည်။*

(ဒ)စာချုပ်တံဆိပ်ခေါင်းခွန်နှင့်ပတ်သက်၍ အငှားချထားခြင်းခံရသူက ပေးဆောင်ရမည်။

၈။ မူလစာချုပ် "အထွေထွေသဘောတူညီချက်များ"ခေါင်းစဉ်အောက်ရှိ အပိုဒ် (၁၄-င)နှင့် (၁၄-စ) တို့အား ပယ်ဖျက်ရမည်။

၉။ မူလစာချုပ် "စာချုပ်သက်တမ်းကုန်ဆုံးခြင်း" အပိုဒ်(၁၅)တွင်ဖော်ပြပါရှိသည့် စာပိုဒ်ကို ပယ်ဖျက်၍အောက်ပါအတိုင်းအစားထိုးပြင်ဆင်ရမည်-

၁၅ ဤစာချုပ်သက်တမ်းသည် မူလစာချုပ်လက်မှတ်ရေးထိုးသည့် (၁-၄-၂၀၀၅) မှ (၃၀-၃-၂၀၅၅) ထိ ကနဦး နှစ် (၅၀)ဖြစ်ပါသည်။ သို့သော် အငှားချထားခြင်းခံရသူ၏စာချုပ်ပါ စည်းကမ်းများအားလိုက်နာရန် ဖျက်ကွက်မှုကြောင့် အငှားချထားသူက စာချုပ်ပါစည်းကမ်းနှင့်အညီ ငှားရမ်းခြင်းကို ရပ်စဲသောနေ့သည် စာချုပ်သက်တမ်းကုန်ဆုံးသည့်နေ့ဟုသတ်မှတ်ရမည်။ ယင်းသို့စာချုပ်သက်တမ်းကုန်ခဲ့လျှင် အငှားချထားသူကအငှားချထားခြင်းခံရသူထံမှတစ်စုံတစ်ရာ ခုနှိမ်ရန်မရှိပါက အငှားချထားခြင်းခံရသူ တင်သွင်းထားသည့်လုပ်ငန်းအာမခံငွေကို ပြန်လည်ထုတ်ပေးရန်သဘောတူသည်။

၁၀။ အငှားချထားခြင်းခံရသူသည် အဆိုပြုတင်ပြထားသည့် စာချုပ်ပါအဆောက်အဦ အကွက်ချပုံစံ (Site Plan) အဆောက်အဦအမျိုးအစားအလိုက်၏ အရေအတွက်နှင့်ပုံစံ (Drawing) များအတိုင်းသာ ဆောက်လုပ်သွားရမည်ဖြစ်ပြီး၊ပြောင်းလဲပြင်ဆင်ဆောက်လုပ်လိုပါက အငှားချထားသူထံ ပြန်လည်တင်ပြ၍ အတည်ပြုချက်ရရှိပြီးမှသာ ဆောက်လုပ်ခွင့်ပြုမည်။ အငှားချထားခြင်းခံရသူသည် မိမိတို့အဆိုပြုလွှာတွင် တင်ပြထားသည့် ရင်းနှီးမြှုပ်နှံမှုပမာဏအတိုင်း ပြန်လည်ရင်းနှီးမြှုပ်နှံရမည်။Site Plan နှင့် Drawing မှာ နောက်ဆက်တွဲ (ခ)ပါ အတိုင်းဖြစ်ပါသည်။

၁၁။ တိုးချဲ့ရင်းနှီးမြှုပ်မှုအတွက် လိုအပ်သည့်ငွေကြေးပမာဏကို ဘဏ်ချေးငွေ၊အခြားအရင်းအမြစ်များမှာချေးငွေပြုလုပ်ရာတွင်နိုင်ငံပိုင်မြေနှင့်အဆောက်အဦများအားအသုံးပြု၍မရပါ။နှစ်(၅၀) လုပ်ပိုင်ခွင့်ကိုသာ အသုံးပြုချေးယူနိုင်မည်ဖြစ်ပါသည်။

၁၂။ ဟိုတယ်ငှားရမ်းခြင်းဝန်ဆောင်မှုလုပ်ငန်းအပေါ် နိုင်ငံတော်မှကောက်ခံမည့် အခွန်အခများကို "အငှားချထားခြင်းခံရသူ" မှ အပြည့်အဝပေးဆောင်ရမည်။

၁၃။ ဤပြင်ဆင်ချက်သဘောတူစာချုပ်သည် မူလစာချုပ်၏ တစ်စိတ်တစ်ဒေသဖြစ်စေရမည်။

၁၄။ ဤပြင်ဆင်ချက်သဘောတူစာချုပ်သည် စာချုပ်ပါအဖွဲ့ဝင်များ လက်မှတ်ရေးထိုးသည့်ရက်နေ့မှစ၍ စတင်အကျိုး သက်ရောက်စေရမည်။

၁၅။ ဤပြင်ဆင်ချက်သဘောတူစာချုပ်ပါ စည်းကမ်းချက်များကို စာချုပ်ဝင်နှစ်ဦးနှစ်ဖက်တို့ ဖတ်ရှုသဘောတူသဖြင့် ၂၀၁၆ ခုနှစ်၊ လ ( ) ရက်နေ့တွင် အောက်ပါအသိသက်သေများ ရှေ့မှောက်တွင်လက်မှတ်ရေးထိုးချုပ်ဆိုကြပါသည်။

| အငှါးချထားသူ(ကိုယ်စား) | | အငှါးချထားခြင်းခံရသူ(ကိုယ်စား) | |
|---|---|---|---|
| လက်မှတ် | - | လက်မှတ် | - |
| အမည် | - ဦးတင့်သွင် | အမည် | - ဦးသိန်းသန်း |
| မှတ်ပုံတင်အမှတ် | - ၁၃/တယန(နိုင်)၀၀၃၃၆၇ | မှတ်ပုံတင်အမှတ် | - ၁၂/လကန(နိုင်) ၁၃၁၅၁၀ |
| အဆင့်/တာဝန် | - ညွှန်ကြားရေးမှူးချုပ် ဟိုတယ်နှင့်ခရီးသွားညွှန်ကြားမှု ဦးစီးဌာန | နေရပ်လိပ်စာ | - အမှတ် (၃/ခ)၊ သစ္စာလမ်း ရန်ကုန်မြို့။ |

### အသိသက်သေများ

| | | | |
|---|---|---|---|
| လက်မှတ် | - | လက်မှတ် | - |
| အမည် | - ဦးကောင်းထွန်း | အမည် | - |
| မှတ်ပုံတင်အမှတ် | - ၁၂/သဃက(နိုင်)၁၅၆၃၇၁ | မှတ်ပုံတင်အမှတ် | - |
| ရာထူး | - ဒုတိယညွှန်ကြားရေးမှူးချုပ် | နေရပ်လိပ်စာ | - |
| ဌာန | - ဟိုတယ်နှင့်ခရီးသွားညွှန်ကြားမှု ဦးစီးဌာန | | |




# မိတ္ထီလာဟိုတယ် တည်ဆောက်ရေးလုပ်ငန်း နေရာပြမြေပုံ
# မန္တလေးတိုင်းဒေသကြီး၊ မိတ္ထီလာမြို့
# ရန်ကုန် - မန္တလေး လမ်းမကြီး၊ မိုင်တိုင် ၃၄၀/၁ မှ ၃၄၁/၁ ကြား



# မိတ္ထီလာဟိုတယ်ငှားရမ်းခြင်းဆိုင်ရာ

# နှစ်ဖက်သဘောတူစာချုပ်

၂၀၀၅-ခုနှစ် ၊ မေလ(၄)ရက်




## မြန်မာ့ဟိုတယ်နှင့်ခရီးသွားလုပ်ငန်းပိုင် မိတ္ထီလာဟိုတယ်အား ငှါးရမ်းခြင်းဆိုင်ရာ နှစ်ဘက်သဘောတူစာချုပ်

စာချုပ်ချုပ်ဆိုသူများ

၁။ ဤစာချုပ်ကို ၂၀၀၅ ခုနှစ်၊ မေလ (   )ရက်နေ့၌ ဦးဆောင်ညွှန်ကြားရေးမှူး ဦးစိုးသိန်း၊ အမျိုးသားမှတ်ပုံတင်အမှတ် ( AG - ၁၀၇၉၈၃ ) ကိုယ်စားပြုသော မြန်မာ့ဟိုတယ်နှင့်ခရီးသွားလုပ်ငန်း ၊ (နောင်တွင် "အငှါးချထားသူ" ဟု ခေါ်ဆိုရမည်ဖြစ်ပြီး ယင်းစကားရပ်တွင်အဆိုပါ မြန်မာ့ဟိုတယ်နှင့်ခရီးသွား လုပ်ငန်းအား ဆက်ခံသူများနှင့်ဥပဒေအရ လွှဲအပ်ခြင်းခံရသူတို့ပါဝင်သည်) က တစ်ဖက်နှင့်ဒါရိုက်တာ ဦးသိန်းသန်း၊ အမျိုးသားမှတ်ပုံတင်အမှတ် NTU - ၁၀၈၀၄၆ ကိုယ်စားပြုသော မန္တလေးတိုင်း ၊ ချမ်းအေးသာဇံမြို့နယ် ၈၄ လမ်းနှင့် ၂၇ လမ်း၊ ၂၈ လမ်းတို့အကြားတွင် တည်ရှိသော Diamond Palace Co ., Ltd. (နောင်တွင် "အငှါးချထားခြင်းခံရသူ" ဟု ခေါ်ဆိုရမည်ဖြစ်ပြီး ယင်းစကားရပ်တွင် ၎င်းကုမ္ပဏီ၏ဆက်ခံသူများ၊ တရားဝင်ကိုယ်စားလှယ်များနှင့် ဥပဒေအရ လွှဲအပ်ခြင်းခံရသူတို့ပါဝင်သည်)က အခြားတစ်ဖက်တို့သည် မြန်မာ့ဟိုတယ်နှင့်ခရီးသွားလုပ်ငန်းပိုင် မိတ္ထီလာဟိုတယ်အား အောက်ပါစည်းကမ်းချက်များသတ်မှတ်၍ ငှါးရမ်းခြင်းဆိုင်ရာ ဤနှစ်ဖက်သဘောတူစာချုပ်ကို ချုပ်ဆိုကြသည်။




<u>အာမခံခြင်းနှင့်ကိုယ်စားပြုခြင်း</u>

၂။ "အငှါးချထားသူ"သည် နောက်ဆက်တွဲများနှင့် အသေးစိတ်ဖော်ပြထားသော မြေ၊ ဟိုတယ်အဆောက်အအုံများနှင့် ပစ္စည်းများကိုပိုင်ဆိုင်သူဖြစ်ပြီး "အငှါးချထားခြင်းခံရသူ" သည် စာချုပ်တွင် လက်မှတ်ရေးထိုးခွင့်ရှိ၍ စာချုပ်ကိုအကောင်အထည်ဖော်ရန် ငွေကြေးအင်အားပြည့်စုံသူများဖြစ်ကြကြောင်း အသီးသီးအာမခံကြပါသည်။

၃။ "အငှါးချထားခြင်းခံရသူ" သည် နောက်ဆက်တွဲ (က)မြေပုံဖြင့် ဖော်ပြထားသောမြေ၊ အဆောက်အအုံနှင့် ၃၁-၃-၂၀၀၅ ရက်နေ့တွင် မိတ္ထီလာဟိုတယ်အား "အငှါးချထားခြင်းခံရသူ"သို့ လွှဲပြောင်းပေးအပ်သည့် မှတ်တမ်းစာအုပ်တွင်ဖော်ပြထားသော အဆောက်အဦးပရိဘောဂနှင့် အခြားပစ္စည်းများ (စက်များအပါအဝင်) ကို ငှါးရမ်းဆောင်ရွက်မည်ဖြစ်ပါသည်။




ငှါးရမ်းသည့်ကာလသက်တမ်း

၄။ ငှါးရမ်းသည့်ကာလသက်တမ်းကို (၁-၄-၂၀၀၅) ရက်နေ့မှ စတင်၍ ကနဦး(၁၀)နှစ်နှင့် နောက်ထပ် (၅)နှစ်ကို တစ်နှစ်တစ်ကြိမ်တိုး၍ စုစုပေါင်း (၁၅)နှစ် သတ်မှတ်ပါသည်။ နောက်ထပ် (၅)နှစ် သက်တမ်း ငှါးရမ်းလိုလျှင် ဤငှါးရမ်းသက်တမ်းကုန်ဆုံးမီ (၆)လကြိုတင်၍ "အငှါးချထားခြင်းခံရသူ" က "အငှါးချထားသူ" ထံစာဖြင့် အဆိုပြုတင်ပြနိုင်သည်။ "အငှါးချထားသူ" က "အငှါးချထားခြင်းခံရသူ" ၏ ရင်းနှီးမြှုပ်နှံမှု၊ လုပ်ငန်းဆောင်ရွက်မှုတို့ကို ကျေနပ်သဘောတူလျှင် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ခွင့်ပြုချက်ဖြင့် နောက်ထပ် (၅)နှစ် သက်တမ်းကို တစ်ကြိမ်လျှင် တစ်နှစ်စီဖြင့် (၅) ကြိမ်တိုးမြှင့်ငှါးရမ်းခွင့်ဖြစ်သည်။ အကယ်၍ ယင်းအချိန်တွင် ယှဉ်ပြိုင်ငှါးရမ်းလိုကြသူများ ပေါ်ပေါက်ပါက လက်ရှိ "အငှါးချထားခြင်းခံရသူ" နှင့် အခြေအနေအရပ်ရပ်တူညီခဲ့လျှင် လက်ရှိ "အငှါးချထားခြင်းခံရသူ" ကိုသာ ဦးစားပေးမည် ဖြစ်သည်။




27 APR 2005

ငါးရမ်းခနှုန်းထား

၅။ ငါးရမ်းခကို အောက်ပါအတိုင်းသတ်မှတ်ရန်သဘောတူပါသည်-

(က) မိုက်ထိုလာဟိုတယ်ငါးရမ်းခကို တစ်နှစ်လျှင် မြန်မာငွေကျပ် (၅၀)သိန်းနှင့် ဒေါ်လာ (၂၅၀၀) သတ်မှတ်ရန် သဘောတူကြသည်။

(ခ) ငါးရမ်းခကိုငါးနှစ်တစ်ကြိမ် ပြန်လည်သုံးသပ်၍ ၁၅% ထက်မပိုသောနှုန်းထားဖြင့် သတ်မှတ်ရန် ဖြစ်ပါသည်။

(ဂ) ငါးရမ်းသက်တမ်းတိုးမြှင့်ပါက တိုးမြှင့်မည့်သက်တမ်းတွင် ငါးရမ်းခနှုန်းထားကို စာချုပ်ဝင်နှစ်ဦး နှစ်ဘက် ပြန်လည်ညှိနှိုင်း သတ်မှတ်ရမည်ဖြစ်သည်။




27 APR 2005

<u>ငါးရမ်းခပေးသွင်းခြင်း</u>

၆။ "အငှါးချထားခြင်းခံရသူ" သည် သတ်မှတ်ထားသော တစ်နှစ်ငှါးရမ်းခ မြန်မာကျပ်ငွေ (၅၀)သိန်း၏ (၃)လစာအတွက်ကျသင့်ငွေကျပ်(၁၂.၅)သိန်းတိတိနှင့် တစ်နှစ်ငှါးရမ်းခ နိုင်ငံခြားငွေဒေါ်လာ (၂၅၀၀)၏(၃)လအတွက် ကျသင့်ငွေ နိုင်ငံခြားငွေဒေါ်လာ (၆၂၅) ကို (၃)လတစ်ကြိမ် (ကုန်ဆုံးရက်မတိုင်မီ (၇)ရက်အတွင်း) "အငှါးချထားသူ" သတ်မှတ်သည့် ဘဏ်စာရင်းသို့ ပေးသွင်းရမည်။ ယင်းသို့ ပေးသွင်းရာတွင် သက်ဆိုင်ရာ ဘဏ္ဍာနှစ်နှင့်အညီဖြစ်စေရန် "အငှါးချထားသူ" မှ "အငှါးချထားခြင်ခံရသူ" အား ညှိနှိုင်းပေးသွင်းစေမည်။

၇။ "အငှါးချထားခြင်းခံရသူ"သည် စာချုပ်လက်မှတ်ရေးထိုးပြီးနောက် (၇)ရက်အတွင်း လုပ်ငန်းအာမခံငွေအဖြစ် ငှါးရမ်းခတစ်နှစ်စာဖြင့်ညီမျှသော ငွေကျပ်(၅၀)သိန်းကို "အငှါးချထားသူ" သတ်မှတ်သည့်ဘဏ်သို့ ပေးသွင်းရမည်။




[illegible]

၈။ တစ်နှစ်အတွက်ကျသင့်သော ငှါးရမ်းခကျပ် (၅၀)သိန်းအနက် (၃)လအတွက် ကျသင့်သော ကျပ် (၁၂.၅) သိန်းကို (၃)လ တစ်ကြိမ် ပေးသွင်းရမည်။ မိုးတွင်းကာလ (ဇူလိုင်၊ ဩဂုတ်၊ စက်တင်ဘာလ) တွင် ဝင်ငွေအခက်အခဲကြောင့် ပေးသွင်းနိုင်ခြင်းမရှိပါက ယင်းကာလအတွက် ငှါးရမ်းခကို ဒီဇင်ဘာလမကုန်မီ တတိယ(၃)လပတ်ငှါးရမ်းခနှင့်အတူ အားလုံးပေးသွင်းရမည်။ တစ်နှစ်အတွက်ကျသင့်သော ငှါးရမ်းခစုစုပေါင်း ကျပ် (၅၀)သိန်းကို နှစ်စဉ်မတ်လ (၃၁)ရက်ထက် နောက်ကျပေးသွင်းပါက တစ်ရက်လျှင် ကျပ် ၁၀၀၀/- (ကျပ်တစ်ထောင်တိတိ)နှုန်းဖြင့် ဒဏ်ကြေးပေးဆောင်ရမည်။

၉။ သတ်မှတ်ရက်အတွင်း မပေးသွင်းနိုင်၍ ဒဏ်ကြေးသတ်မှတ်ခြင်းခံရပါက သတ်မှတ်ဒဏ်ကြေးကို မပျက်မကွက်ပေးဆောင်ရမည်။ ဒဏ်ကြေးကင်းလွတ်ခွင့် လုံးဝခွင့်မပြုပါ။

၁၀။ သတ်မှတ်ဒဏ်ကြေးကို ပေးဆောင်ခြင်းမပြုပါက "အငှါးချထားသူ" က ငှါးရမ်းခြင်းစာချုပ်ကိုရပ်စဲပိုင်ခွင့်ရှိရမည့်အပြင် "အငှါးချထားသူ" ဆုံးရှုံးနစ်နာသမျှကို တင်ထားသော အာမခံတန်ဘိုးမှ ရယူပိုင်ခွင့်ရှိရမည်။ နိုင်ငံခြားငွေနစ်နာမှုနှင့်စပ်လျဉ်း၍ "အငှါးချထားသူ" ၏ အဆုံးအဖြတ်ကို ခံယူရမည်။

၁၁။ "အငှါးချထားခြင်းခံရသူ" သည် ခိုင်လုံသော အကြောင်းပြချက်မရှိဘဲ ငှါးရမ်းခပေးသွင်းခြင်းကို (၃)လ ထိပျက်ကွက်ပါက "အငှါးချထားသူ" က အငှါးချထားခြင်းကို ရပ်ဆိုင်းပိုင်ခွင့်ရှိရမည့်အပြင် "အငှါးချထားသူ" ဆုံးရှုံးနစ်နာသမျှကို တင်ထားသောအာမခံတန်ဖိုးမှ ရယူပိုင်ခွင့်ရှိရမည်။ နိုင်ငံခြားငွေနစ်နာမှုနှင့် စပ်လျဉ်း၍ "အငှါးချထားသူ" ၏ အဆုံးအဖြတ်ကို ခံယူရမည်။

အငှါးချထားခြင်းခံရသူ၏ တာဝန်များ

၁၂။ "အငှါးချထားခြင်းခံရသူ" သည် အောက်ပါတို့ကိုတာဝန်ခံဆောင်ရွက်ရမည်-

(က) "အငှါးချထားခြင်းခံရသူ" သည် မူလဟိုတယ်ဝန်ထမ်းများမှ ဆန္ဒပြုသူများကို ဆက်လက်ခန့်ထားတာဝန်ပေးပါက ယင်းတို့၏ လုပ်ခ၊ လစာနှုန်းထားနှင့် ပတ်သက်၍ နိုင်ငံတော်မှ လက်ရှိ အဆင့်အလိုက် သတ်မှတ်သည့် လုပ်ခ၊ လစာနှင့် အကျိုးခံစားခွင့်ထက် မနည်းစေရန် သတ်မှတ်ပေးရမည်။ ထို့ပြင် ယင်းဝန်ထမ်းတစ်ဦးဦးအား ထုတ်ပယ်လိုပါက တည်ဆဲဥပဒေ၊ စည်းမျဉ်းစည်းကမ်းများနှင့်အညီ ဆောင်ရွက်ရမည်။

(ခ) မိတ္ထီလာဟိုတယ်၏ လက်ရှိအဆောက်အအုံ၊ အခန်းဖွဲ့စည်းထားမှုကို ပြောင်းလဲစေသည့် တိုးချဲ့ခြင်း၊ပြုပြင်ခြင်းများကို "အငှါးချထားသူ"၏ စာဖြင့်ကြိုတင်ခွင့်ပြုချက်ရရှိမှသာဆောင်ရွက်ရမည်။

(ဂ) ငှါးရမ်းလုပ်ကိုင်စဉ်အတွင်း "အငှါးချထားခြင်းခံရသူ" သည် ငှါးရမ်းလုပ်ကိုင်ခွင့်ရသည့် ဟိုတယ်ကို လွှဲပြောင်းယူစဉ်ကရှိခဲ့သည့် အခြေအနေထက် မနိမ့်ကျစေပဲ အဆင့်မြင့်မွမ်းမံပြင်ဆင်ဖြည့်တင်းခြင်း (Up Grading) ပြုလုပ်ရမည်။ ဟိုတယ်အား မူလပုံစံအတိုင်း ပြန်လည်ပြုပြင်တည်ဆောက်ခြင်း၊ ဟိုတယ်ဝင်းအတွင်း Rest Area တည်ဆောက်ခြင်း၊ ရေကူးကန်နှင့် Land Scaping များပြုလုပ်ခြင်းတို့ကို (၂)နှစ်အတွင်း ပြီးစီးအောင်ဆောင်ရွက်ရမည်။

(ဃ) ထိုသို့အဆင့်မြင့်မွမ်းမံဖြည့်တင်းခြင်းနှင့် အသစ်တိုးချဲ့တည်ဆောက်ခြင်းအတွက် ငွေကျပ်သိန်း ၁၆၀၀ (ကျပ်သိန်းတစ်ထောင့်ခြောက်ရာတိတိ) ကိုလည်းကောင်း၊ နှစ်စဉ်ပြုပြင်မွမ်းမံစရိတ်အဖြစ် နှစ်ဘက်သဘောတူညီချိန်း သတ်မှတ်၍လည်းကောင်းကျခံသုံးစွဲမည်ဖြစ်ပြီး၊ ယင်းကုန်ကျငွေများအား"အငှါးချထားခြင်းခံရသူ" ၏ ရင်းနှီးမြှုပ်နှံငွေအဖြစ် သတ်မှတ်ပေးမည်။

(င) ငှါးရမ်းလုပ်ကိုင်ခွင့်ရသည့်ဟိုတယ်၏အခန်း၊ အဆောက်အဦများအား အဆင့်မြင့်မွမ်းမံပြင်ဆင်ဖြည့်တင်းခြင်းနှင့် စာချုပ်ပါဝန်ခံကတိအတိုင်း ငွေရင်းနှီးမြှုပ်နှံ အသစ်တိုးချဲ့တည်ဆောက်ခြင်းနှင့်နှစ်စဉ်မွမ်းမံပြင်ဆင်ခြင်း ရှိ/မရှိကို "အငှါးချထားသူ" မှ စစ်ဆေးပြီးဆောင်ရွက်ခြင်းမရှိပါက ထိုသို့ပြုလုပ်ဆောင်ရွက်ရန် "အငှါးချထားသူ" မှ စာဖြင့် အကြောင်းကြားပါမည်။ "အငှါးချထားခြင်းခံရသူ"မှ အကြောင်းကြားစာရရှိသော်လည်း ယင်းစာပါသတ်မှတ်ရက် ကျော်လွန်သည့်တိုင်အောင် ဆက်လက်လုပ်ကိုင်ခြင်းမရှိလျှင် ငှါးရမ်းလုပ်ကိုင်ခွင့်ပေးထားသည့် ဟိုတယ်အား ပြန်လည်သိမ်းယူခွင့် ရှိစေရမည်။

(စ) "အငှါးချထားခြင်းခံရသူ"မှ အဆင့်မြင့်မွမ်းမံပြင်ဆင်ဖြည့်တင်းခြင်းနှင့်အသစ်တိုးချဲ့တည်ဆောက်ခြင်းအတွက် အဆောက်အဦနှင့် ရင်းနှီးမြှုပ်နှံငွေအဖြစ် ဖော်ပြထားသော ပစ္စည်းအားလုံးကို ငှါးရမ်းသည့် သက်တမ်းကုန်ဆုံးချိန်တွင် အဖိုးစားနားမပါပဲ နိုင်ငံတော်ပိုင်အဖြစ် လွှဲပြောင်းပေးရမည်။

(ဆ) "အငှါးချထားခြင်းခံရသူ" ၏ အစီအစဉ်ဖြင့်ဖြည့်တင်းထားသော စက်ကရိယာ၊ အသုံးအဆောင်နှင့်အဆောက်အအုံတွင် တွယ်ကပ်ထားသော ပစ္စည်းများအားလုံးတို့ကိုလည်း ငှါးရမ်းခြင်းရပ်စဲချိန်တွင်"အငှါးချထားသူ" သို့ အဖိုးစားနားမပါပဲ လွှဲပြောင်းပေးရမည်။

(ဇ) ငှါးရမ်းလုပ်ကိုင်သည့် ကာလပြည့်ပြီးနောက် ဆက်လက်ငှါးရမ်းလုပ်ကိုင်လိုခြင်း မရှိပါကယင်းဟိုတယ်နှင့် နောက်ဆက်တွဲ(က) ၊ (ခ) ပါပစ္စည်းများ(စက်များအပါအဝင်) ကိုမူလ ငှါးယူစဉ်က အခြေအနေအဆင့်အတန်းထက် မနိမ့်သောအခြေအနေဖြင့် အဖိုးအခမပါပဲ "အငှါးချထားသူ" ထံ လွှဲအပ်ပေးရမည် ။ ( မူလအခြေအနေဆိုရာတွင် ပစ္စည်းအရေအတွက်ကိုက်ညီရမည်ဖြစ်ပြီး ပစ္စည်း၏သဘာဝအရ ဟောင်းသွားသည်မှလွဲ၍ ဆက်လက်သုံးစွဲ နိုင်သောအခြေ အနေမျိုးဖြစ်ရမည်) ။ အကယ်၍ ပြန်လည်အပ်နှံချိန်တွင် အဆောက်အဦများသည် မူလအခြေအနေ အဆင့်အတန်းထက်နိမ့်ကျနေ၍ "အငှါးချထားသူ" က ပြန်လည်ပြုပြင်ရလျှင် ယင်းအတွက်ကုန်ကျစရိတ်များကိုပါ "အငှါးချထားခြင်းခံရသူ" က ပြန်လည်ပေးလျော်ရမည်။ အခြားပစ္စည်းများသည် ဆက်လက်သုံးစွဲနိုင်သော အခြေအနေမရှိလျှင် " အငှါးချထားသူ " တောင်းဆိုသည့် လျော်ကြေးကိုလည်း ပေးလျော်ရမည်။

(ဈ) ဟိုတယ်တွင်စားသုံးသူ (သို့မဟုတ်)တည်းခိုသူ၏ မူးယစ်ရမ်းကားခြင်းကြောင့် ဟိုတယ်ရှိပစ္စည်း၊ တစ်စုံတစ်ရာပျက်စီးခြင်းနှင့် ပျောက်ဆုံးခြင်းများပေါ် ပေါက်ပါက"အငှါးချထားခြင်းခံရသူ"သည် ၎င်း၏ ကုန်ကျစရိတ်ဖြင့် ယင်းပစ္စည်းများကို ချက်ချင်းအစားထိုး ပြင်ဆင်ဖြည့်စွက်ခြင်းပြုလုပ်ရန် သဘောတူပါသည်။

(ည) အငှါးချထားသည့် မြေ၊ အဆောက်အအုံနှင့် ပစ္စည်းတို့ကိုလည်းကောင်း၊ ယင်းတို့၏တစ်စိတ်တစ်ဒေသကိုလည်းကောင်း၊ ပေါင်နှံခြင်း၊ တဆင့်ငှါးရမ်းခြင်း၊ ရောင်းချခြင်း (သို့မဟုတ်) တစ်နည်းနည်းဖြင့် လွှဲပြောင်းပေးခြင်းစသည်တို့ကို မပြုလုပ်ရန် သဘောတူပါသည်။

(ဋ) အငှါးချထားသည့်ပစ္စည်းများနှင့် စပ်လျဉ်း၍ စည်ပင်အခွန်၊ လိုင်စင်ကြေး၊ အခြားအခွန်အခများနှင့်လုပ်ငန်းဆောင်ရွက် မှုနှင့်သက်ဆိုင်သည့် အခွန်အခအမျိုးမျိုးကို ကျခံပေးဆောင်ရမည်။

(ဌ) အပိုဒ်ခွဲ(ဃ)အရ မွမ်းမံပြင်ဆင်မှုများပြုလုပ်ရာတွင် "အငှါးချထားသူ" ၏ အကြံပြုချက်များရှိပါက အကြံပြုချက်အတိုင်း လိုက်နာပြင်ဆင်ပေးရန်နှင့်မွမ်းမံပေးရန် သဘောတူပါသည်။

(ဍ) အငှါးချထားသည့် ဟိုတယ်အဆောက်အဦနှင့် ပတ်သက်၍ "အငှါးချထားခြင်းခံရသူ" သည် ပြည်ထောင်စုမြန်မာနိုင်ငံတော်၏ တည်ဆဲဥပဒေ၊ နည်းဥပဒေ၊ လုပ်ထုံးလုပ်နည်း၊ ညွှန်ကြားချက်များနှင့် အညီလိုက်နာဆောင်ရွက်ရန် ကတိပြုပါသည်။

(ဎ) "အငှါးချထားခြင်းခံရသူ"သည် မြန်မာ့အာမခံဥပဒေနှင့်အညီထားရှိရမည့် အာမခံများကို ငှါးရမ်းလုပ်ကိုင်နေစဉ်အတွင်း"အငှါးချထားသူ"၏ အမည်ဖြင့် မြန်မာ့အာမခံလုပ်ငန်းတွင် ထားရှိရမည်။

(ဏ) "အငှါးချထားခြင်းခံရသူ" သည် ရေဆိုးများသန့်စင်စေရန်စီမံခြင်း၊ ရေလွှတ်စနစ်များထားရှိခြင်း တို့ကို ပြည်ထောင်စုမြန်မာနိုင်ငံတော် ဥပဒေ၊ စည်းမျဉ်းစည်းကမ်း၊ လုပ်ထုံးလုပ်နည်းများနှင့်အညီ ပတ်ဝန်းကျင်ညစ်ညမ်းမှုမရှိစေရန် အကောင်အထည်ဖော်ဆောင်ရွက်ရမည်။

(တ) "အငှါးချထားခြင်းခံရသူ" (သို့မဟုတ်) "အငှါးချထားခြင်းခံရသူ" ၏တာဝန်ပေးအပ်ခြင်းခံရသူ (သို့မဟုတ်) "အငှါးချထားခြင်းခံရသူ" ၏ ဆက်စပ်လုပ်ငန်းတစ်ရပ်ရပ်၏ ပယောဂကြောင့် မီးလောင်ဆုံးရှုံးမှုဖြစ်ပေါ်လာပါက ဆုံးရှုံးမှုတန်ဘိုးမှမီးအာမခံအတွက် ရရှိမည့်ငွေကို နှုတ်ပယ်ပြီး ကျန်တန်ဘိုးကို"အငှါးချထားခြင်းခံရသူ"မှ ပေးလျော်ရန်သဘောတူသည်။

(ထ) "အငှါးချထားခြင်းခံရသူ" သည် ဤငှါးရမ်းခြင်းစာချုပ်ကို ဥပဒေနှင့်အညီ သက်ဆိုင်ရာတွင် ကျသင့်သည့် တံဆိပ်ခေါင်းခွန်နှင့် အခြားအခွန်အခများကို ထမ်းဆောင်ခြင်း စသည်တို့ကို ဥပဒေနှင့်အညီ ဆောင်ရွက်ရမည်။

<u>"အငှါးချထားသူ"၏ တာဝန်များ</u>

၁၃။ "အငှါးချထားသူ"သည် အောက်ပါတို့ကိုတာဝန်ခံဆောင်ရွက်ရမည်-

(က) "အငှါးချထားခြင်းခံရသူ"အား အငှါးချထားသည့် နောက်ဆက်တွဲ(က)၊ လွှဲပြောင်းပေးအပ်သည့် မှတ်တမ်းစာအုပ်ပါ (အဆောက်အဦ၊ ပရိဘောဂနှင့် အခြားပစ္စည်းများ(စက်များအပါအဝင်) ကို အသုံးပြု၍ ဟိုတယ်လုပ်ငန်းဆောင်ရွက်ခွင့်ပြုမည်။

(ခ) ဟိုတယ်အဆောက်အဦ တည်ရှိသည့်မြေနေရာအတွက် မြေခွန်ကိုပေးဆောင်ရမည်။

<u>အထွေထွေသဘောတူညီချက်များ</u>

၁၄။ မိတ္ထီလာဟိုတယ်ငှါးရမ်းခြင်းဆိုင်ရာ အထွေထွေသဘောတူညီချက်များမှာအောက်ပါအတိုင်းဖြစ်သည်-

(က) မိတ္ထီလာဟိုတယ်လုပ်ငန်းနှင့်ဆက်စပ်၍ "အငှါးချထားသူ" ကဆောင်ရွက်ပေးရန်(သို့မဟုတ်) "အငှားချထားခြင်းခံရသူ" က ဆောင်ရွက်ပေးရန် ကိစ္စရပ်များ ပေါ်ပေါက်လာပါက နှစ်ဦးနှစ်ဖက် ညှိနှိုင်းဆောင်ရွက်နိုင်သည်။

(ခ) "အငှါးချထားခြင်းခံရသူ" မှ အဆင့်မြင့်မွမ်းမံပြင်ဆင်ခြင်းနှင့် အသစ်တိုးချဲ့တည်ဆောက်ခြင်း အတွက် ရင်းနှီးမြှုပ်နှံမှုအခြေအနေကို ငှါးရမ်းသက်တမ်းကာလအား တိုးမြှင့်သတ်မှတ်ပေးခြင်း (သို့မဟုတ်) ငှါးရမ်းသက်တမ်းကာလပြည့်ပြီးနောက် ဆက်လက်ငှါးရမ်းခွင့်ပေးခြင်း တို့အတွက် "အငှါးချထားသူ" မှ ထည့်သွင်းစဉ်းစားပေးရမည်။

(ဂ) ဟိုတယ်"အငှါးချထားသူ"၏ ချို့ယွင်းပျက်ကွက်မှုမပါဘဲ မမျှော်မှန်းနိုင်သည့်ကိစ္စကြီးငယ်ကြောင့် ဟိုတယ်ကို ယာယီပိတ်ထားခံရပါက "အငှါးချထားခြင်းခံရသူ" က အဆိုပါပိတ်ထားရသည့် ကာလအတွက် ပေးဆောင်ရမည့် ငှါးရမ်းခကို ကင်းလွတ်ခွင့်ပြုရန် "အငှါးချထားသူ" ထံသို့ တင်ပြတောင်းခံနိုင်သည်။ "အငှါးချထားသူ"က ယင်းကာလအတွက် ငှါးရမ်းခကို ကင်းလွတ်ခွင့်ပြုနိုင်သည်၊(သို့မဟုတ်)လျော့ပေါ့ခွင့်ပြုနိုင်သည်။

(ဃ) သဘာဝဘေးအန္တရာယ် (လေမုန်တိုင်းများ၊ ရေကြီးခြင်း၊ငလျင်)ကြောင့် ပျက်စီးဆုံးရှုံးမှုများရှိခဲ့၍ လုပ်ငန်းအားလုံးရပ်ဆိုင်းရပါက "အငှါးချထားခြင်းခံရသူ" က ပေးဆောင်ရမည့် ငှါးရမ်းခကို ပြင်ဆင်ဆဲကာလအတွင်း ငှါးရမ်းခနှင့်ပတ်သက်၍ နှစ်ဘက်ညှိနှိုင်း သဘောတူညီချက်အရ "အငှါးချထားခြင်းခံရသူ" မှ ပေးဆောင်ရန်ဖြစ်သည်။

(င) အပိုဒ်ခွဲ(ဂ)နှင့် (ဃ)ပါ အကြောင်းတစ်ရပ်ရပ်ကြောင့် ဟိုတယ်ကို ယာယီပိတ်ထားရသည့်ကာလ အတွက် ငှါးရမ်းသက်တမ်းတိုးမြှင့်ပေးရန် "အငှါးချထားခြင်းခံရသူ" က တောင်းခံလာပါက မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ခွင့်ပြုချက်ဖြင့် ငှါးရမ်းကာလကို ပြင်ဆင်တိုးမြှင့်ပေးရန် ဖြစ်သည်။

(စ) "အငှါးချထားခြင်းခံရသူ" ၏ ဟိုတယ်လုပ်ငန်းဆောင်ရွက်မှု ငွေစာရင်းများကို စနစ်တကျ ထားရှိရန်နှင့် "အငှါးချထားသူ" နှင့် "အငှါးချထားခြင်းခံရသူ" တို့မှ သဘောတူခန့်အပ်သော စာရင်းစစ်အဖွဲ့က အနည်းဆုံး (၆)လတစ်ကြိမ် (သို့မဟုတ်)လိုအပ်သည့်အချိန်တွင် ဝင်ရောက် စစ်ဆေးခြင်းကို ခွင့်ပြုရမည်။

(ဆ) ဤစာချုပ်တွင်ပူးတွဲထားရှိရသည့်မြေပုံနှင့်နောက်ဆက်တွဲများသည် စာချုပ်၏တစ်စိတ်တစ်ဒေသ ဖြစ်သည်။

(ဇ) ဤဟိုတယ် ငှါးရမ်းခြင်း သဘောတူစာချုပ်ကို ဆောင်ရွက်ခြင်းနှင့် အကောင်အထည်ဖော်ခြင်း တို့သည် အစိုးရအဖွဲ့အစည်းများထံမှ လိုအပ်သည့် သဘောတူညီချက်၊ ခွင့်ပြုချက်နှင့် လုပ်ဆောင်ခွင့်ပြုချက်များ ရရှိပြီးမှုပေါ်တွင် တည်ရှိသည်။

(ဈ) ဤစာချုပ်အရ ဆောင်ရွက်နေစဉ်အတွင်း မမျှော်လင့်ဘဲ ဓါတ်သတ္တုအရင်းအမြစ်များ၊ သဘာဝ တွင်းထွက်သယံဇာတပစ္စည်းများ၊ ကျောက်မျက်ရတနာများ၊ ရှေးဟောင်းပစ္စည်းများ တွေ့ရှိပါက "အငှားချထားသူ"သို့ ချက်ချင်းအကြောင်းကြားရမည်။ အဆိုပါသယံဇာတပစ္စည်းများသည် နိုင်ငံ တော်ပိုင်ပစ္စည်းများဖြစ်စေရမည်။

## စာချုပ်သက်တမ်းကုန်ဆုံးခြင်း

၁၅။ ဤစာချုပ်သက်တမ်းသည် ကနဦးငှားရမ်းကာလ (၁၀)နှစ်ပြည့်မြောက်သည့် (၃၁-၃-၂၀၁၅) နေ့အထိ ဖြစ်သည်။၁-၄-၂၀၁၅ နေ့မှစ၍ နောက်ထပ် (တစ်)နှစ်ချင်း (၅)ကြိမ်ကို တစ်နှစ်တစ်ကြိမ် စာချုပ်အသစ် ညှိနှိုင်းချုပ်ဆို ငှားရမ်းသွားမည်ဖြစ်သည်။သို့သော် "အငှားချထားခြင်းခံရသူ"၏ ပျက်ကွက်မှုကြောင့်"အငှားချ ထားသူ" က စာချုပ်ပါ စည်းကမ်းနှင့်အညီ ငှားရမ်းခြင်းကို ရပ်ဆိုင်းသောနေ့သည် စာချုပ်သက်တမ်း ကုန်ဆုံး သည့်နေ့ဟု သတ်မှတ်ရမည်။ ယင်းသို့စာချုပ်သက်တမ်းကုန်ခဲ့လျှင် "အငှားချထားသူ" က "အငှားချထားခြင်း ခံရသူ" ထံမှ တစ်စုံတစ်ရာခုနှိမ်ရန်မရှိပါက "အငှားချထားခြင်းခံရသူ" တင်သွင်းထားသည့် လုပ်ငန်းအာမခံ ငွေကို ပြန်လည်ထုတ်ပေးရန် သဘောတူသည်။

## ငှားရမ်းသည့်မြေနှင့်အဆောက်အဦအား ပြန်လည်လွှဲအပ်ခြင်း

၁၆။ ဤစာချုပ်သက်တမ်းကုန်ဆုံးပြီး အခြားသဘောတူညီနိုင်းထားချက်များ မရှိပါက ရက်ပေါင်း (၃၀) အတွင်း မြေနှင့်အဆောက်အဦကို"အငှားချထားခြင်းခံရသူ"က "အငှားချထားသူ"သို့ ကောင်းမွန်သော အနေအထားအတိုင်း အဖိုးစားနားမယူဘဲ ပြန်လည်အပ်နှံရမည်။

## စာချုပ်ရုပ်စဲခြင်း

၁၇။ ဤစာချုပ်သည် အောက်ဖော်ပြပါ အခြေအနေအဖြစ်အပျက်တစ်ရပ်ရပ်ဖြစ်ပါက မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင်၏အတည်ပြုချက်ဖြင့် ရုပ်စဲနိုင်သည်-

(က) စာချုပ်ချုပ်ဆိုသူနှစ်ဦးနှစ်ဘက်တို့သည် စာချုပ်ကိုရုပ်စဲရန်သဘောတူလျှင်လည်းကောင်း၊

(ခ) စာချုပ်ဝင်တစ်ဖက်ဖက်မှ စာချုပ်ပါ စည်းကမ်းချက်များကို လိုက်နာရန် ပျက်ကွက်လျှင်လည်းကောင်း၊

(ဂ) သက်ဆိုင်သည့်လုပ်ငန်းတစ်ခုလုံးတွင်ကြီးမားသောအရှုံးဆက်တိုက်ပေါ်ပေါက်နေသည့်အခါတွင်လည်းကောင်း၊

(ဃ) မလွန်ဆန်နိုင်သည့် ဖြစ်ရပ်တစ်ခုခုသည် တစ်ဆက်တည်း (၆)လထက်မနည်း ပေါ်ပေါက်နေသည့်အခါတွင်လည်းကောင်း၊

(င) စာချုပ်ပါ မူလရည်မှန်းချက်များကို အကောင်အထည် မဖော်နိုင်တော့သည့်အခါတွင်လည်းကောင်း၊

(စ) စာချုပ်သက်တမ်းကုန်ဆုံးလျှင်လည်းကောင်း၊

၁၈။ ဤစာချုပ်ကို "အငှားချထားခြင်းခံရသူ" ၏ ပျက်ကွက်မှုကြောင့် ရုပ်စဲသည့်အခါတွင် "အငှားချထားသူ" သည် အငှားချထားသည့် အဆောက်အဦ ပစ္စည်းအားလုံးနှင့် ဆောက်လုပ်ပြီးစီးသည့် အဆောက်အအုံသစ်များအပါအဝင် ပစ္စည်းအားလုံးကို သိမ်းဆည်းပြီး ရယူပိုင်ခွင့်ရှိစေရမည့်အပြင် အငှားချထားသည့် ပစ္စည်းအပေါ်သို့ ပြန်လည်ဝင်ရောက်၍ လက်ရှိထားပိုင်ခွင့်ရှိသည်။ ယင်းသို့ပြုလုပ်မှုကြောင့် "အငှားချထားသူ"၏ ငှားရမ်းခရပိုင်ခွင့်နှင့် လျော်ကြေးတောင်းဆိုပိုင်ခွင့်များကို ထိခိုက်မှုမရှိစေရ။

## စာချုပ်ပြန်လည်ညှိနှိုင်းခြင်း

၁၉။ ဤဟိုတယ်ငှားရမ်းခြင်းစာချုပ်တွင် မမျှော်မှန်းခဲ့သောဖြစ်ရပ်နှင့် အခြေအနေများ ပေါ်ပေါက်ပြီး ထိုအခြေအနေများကြောင့် စာချုပ်ကိုပြင်ဆင်ရန်၊ ပုံသဏ္ဍာန်ပြောင်းရန်၊ ဖြည့်စွက်ရန်နှင့် နုတ်ပယ်ရန်လိုအပ်လာပါက စာချုပ်ဝင်များသည် ဆိုသို့သောပြင်ဆင်မှုများပြုလုပ်ရန် ပြန်လည်ညှိနှိုင်းကြရမည်။ စာဖြင့်အပြန်အလှန် သဘောတူညီချက် မရှိဘဲ စာချုပ်ဝင်များသည် ဤစာချုပ်ကို ပြင်ဆင်ခြင်း၊ ပုံသဏ္ဍာန်ပြောင်းလဲခြင်း၊

ဖြည့်စွက်ခြင်းနှင့်နှုတ်ပယ်ခြင်းမျိုးမပြုလုပ်ရ။ထိုသို့စာချုပ်ဝင်များက နှစ်ဦးနှစ်ဖက်စာဖြင့်ရေးသားပြီး လက်မှတ်ရေးထိုးပြင်ဆင်ပါက ဤသို့သောပြင်ဆင်ချက်များသည် ဤမြေအဆောက်အဦငှါးရမ်းသည့် စာချုပ်၏တစ်စိတ်တစ်ဒေသဖြစ်လာရမည်။ ထိုသို့ ပြင်ဆင်ခြင်းများသည် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ အတည်ပြုချက်ရမှသာ အတည်ဖြစ်စေရမည်။

ခုံသမာဓိဖြင့်ဆုံးဖြတ်ခြင်း (အနုညာတစီရင်ခြင်း)

၂၀။ ဤဟိုတယ်ငှါးရမ်းခြင်း စာချုပ်ပါစည်းကမ်းချက်များနှင့်ပတ်သက်၍ အငြင်းပွားမှု ပေါ်ပေါက်လာပါက ထိုအငြင်းပွားမှုကို နှစ်ဦးနှစ်ဖက် ပြေလည်စွာဖြေရှင်းရမည်။ ထိုကဲ့သို့ ဖြေရှင်းမရနိုင်ပါက အနုညာတညှိနှိုင်းမှုဖြင့် အောက်ပါအတိုင်းဖြေရှင်း ကြရမည်-

(က) ခုံလူကြီးတစ်ဦးစီကို စာချုပ်ဝင်တစ်ဖက်စီမှ ခန့်ထားပြီး ထိုအငြင်းပွားမှုကို ဖြေရှင်းရမည်။

(ခ) အထက်ပါအတိုင်းဖြေရှင်းပါလျှက် အငြင်းပွားမှုသည်မပြီးပြတ်ပါက ခုံလူကြီးနှစ်ဦးက သမာဓိလူကြီး (UMPIRE) တစ်ဦးကို နှစ်ဦးနှစ်ဖက် သဘောတူရွေးချယ်ခန့်ထား၍ ဖြေရှင်းစေရမည်။

(ဂ) ခုံလူကြီးနှစ်ဦး၏အဆုံးအဖြတ် (သို့မဟုတ်) သမာဓိလူကြီး (UMPIRE)၏ အဆုံးအဖြတ်သည် အငြင်းပွားမှုနှင့် ပတ်သက်သော စာချုပ်ဝင်နှစ်ဦးနှစ်ဖက်တို့အပေါ် အပြီးအပြတ်ဖြစ်စေရမည့်အပြင် နှစ်ဖက်စာချုပ်ဝင်များအပေါ်၌လည်း အတည်ဖြစ်စေရမည်။

(ဃ) အနုညာတဖြင့် ဆောင်ရွက်ရာတွင် ၁၉၄၄ ခုနှစ်၊ အနုညာတအက်ဥပဒေ (မြန်မာနိုင်ငံအက်ဥပဒေ အမှတ် ၄/၁၉၄၄) နှင့် နောက်ပိုင်းထုတ်ပြန်သော တည်ဆဲပြင်ဆင်ချက်များနှင့်အညီ ဆောင်ရွက်ရမည်။

(င) အမှုအတွက်ကုန်ကျစရိတ်များကို အမှုရှုံးသူကကျခံရမည်။

(စ) အမှုစီရင်ဆုံးဖြတ်မည့်နေရာသည် ရန်ကုန်မြို့ဖြစ်သည်။

မလွန်ဆန်နိုင်သောဖြစ်ရပ်များ

၂၁။ မလွန်ဆန်နိုင်သော၊ မတားဆီးနိုင်သော ဖြစ်ရပ်တစ်ခုခုကြောင့် စာချုပ်ဝင်တစ်ဖက်ဖက်သည် မိမိ၏တာဝန်ဝတ္တရားများကို ဆောင်ရွက်ရာတွင် ပျက်ကွက်ခြင်း၊ နှောင့်နှေးခြင်းများရှိသဖြင့် အခြားစာချုပ်ဝင်တစ်ဖက်ဖက်တွင် နစ်နာမှုများပေါ်ပေါက်လျှင် ထိုမလွန်ဆန်နိုင်သောဖြစ်ရပ်ကို ထိခိုက်ခံရသူသည် အခြားတစ်ဖက်ဖက်၏ နစ်နာမှုအတွက် တာဝန် မရှိစေရ။

၂၂။ မလွန်ဆန်နိုင်သော ဖြစ်ရပ်ဆိုသည်မှာ စာချုပ်ဝင်တစ်ဖက်ဖက်က လိုအပ်သော သတိ၊ ဝီရိယနှင့်ဆောင်ရွက်စေကာမူ မလွန်ဆန်နိုင်၊ မကျော်လွှားနိုင်သည့် အစိုးရ၏တားဆီးမှု၊ သပိတ်မှောက်မှု၊ စစ်ဖြစ်ပွားမှု၊ ပိတ်ဆို့တားဆီးမှု၊ သူပုန်ထမှု၊ အဓိကရုဏ်းဖြစ်ပွားမှု၊ ကူးစက်ရောဂါပြန့်ပွားမှု၊ မီးလောင်မှု၊ ရေကြီးမှု၊ လျှပ်စီးမှု၊ လေမုန်တိုင်းကျမှု စသောအလားတူဖြစ်ရပ်ကို ဆိုလိုသည်။ မလွန်ဆန်နိုင်သောဖြစ်ရပ်ဖြစ်ပွားလာပါက (၃)ရက် အတွင်းဖြစ်ပွားမှုအခြေအနေ အသေးစိတ်ကိုဖော်ပြ၍ တစ်ဖက်သို့ စာဖြင့် တရားဝင်အကြောင်းကြား

ရမည်။ တစ်ဖက်မှလက်ခံလျှင် မလွန်ဆန်နိုင်သောဖြစ်ရပ်ပြောက်ပြီး ထိုဖြစ်ရပ်ဖြစ်ပွားမှုကာလအတွင်း ပျက်ပြား မှုအခြေအနေ၊ မိမိကဆုံးဖြတ်ဆောင်ရွက်ခဲ့မှု အခြေအနေနှင့် အရေးယူဆောင်ရွက်ခဲ့မှု အခြေအနေများကို လည်းအကြောင်းကြားရမည်။ အဆိုပါဖြစ်ရပ် ကြုံတွေ့ခံစားရသူ၏ ဆောင်ရွက်မှုတာဝန်များကို အခြားနစ်နာသူ တစ်ဖက်၏သဘောတူညီမှုအရ ထိုဖြစ်ရပ်ကာလအတွင်းဆိုင်းငံ့စေရမည်။သို့ရာတွင် ထိုဆိုင်းငံ့ကာလသည် အကျိုးအကြောင်းဆီလျော်မှုအရ လိုအပ်သည်ထက် ပိုမိုမကြန့်ကြာစေဘဲ ထိုဖြစ်ရပ်ကိုလည်း ကြုံတွေ့ခံစားသူက အမြန်ဆုံး တတ်နိုင်သမျှဖယ်ရှားပေးရမည်။ ထိုကဲ့သို့မလွန်ဆန်နိုင်သော ဖြစ်ရပ်ကို ဖယ်ရှားပြီးသည်နှင့် ထိုဖြစ်ရပ်ကို ခံစားရသူက မိမိတာဝန်အရဆောင်ရွက်သင့်သည်ကို အမြန်ဆုံးနှင့် အထိရောက်ဆုံး ဆောင်ရွက်ရမည်။

<u>စာပေးစာယူပြုလုပ်ရန်ကိစ္စ</u>

၂၃ စာပေးစာယူပြုလုပ်ရာတွင် မြန်မာဘာသာ (သို့မဟုတ်) အင်္ဂလိပ်ဘာသာဖြင့် ရေးသား၍ မှတ်ပုံတင်စာပို့ခြင်း၊ လေကြောင်းစာပို့ခြင်း၊ အမြန်ချောပို့ခြင်း၊ တဲလက်စ်ဖြင့်ပို့ခြင်း၊ဖက်စ်ဖြင့်ပို့ခြင်းတို့ကို အသုံးပြု၍ အောက်ပါလိပ်စာ အတိုင်း အချင်းချင်းဆက်သွယ်ရမည်။လိပ်စာပြောင်းလဲခြင်းရှိပါက စာချုပ်ဝင်တစ်ဖက်သို့ ချက်ချင်းအသိပေးအကြောင်း ကြားထားရမည်-

(က) ဦးဆောင်ညွှန်ကြားရေးမှူး
မြန်မာ့ဟိုတယ်နှင့်ခရီးသွားလုပ်ငန်း
အမှတ် ၇၇/၉၁၊ ဆူးလေဘုရားလမ်း
ကျောက်တံတားမြို့နယ်၊ ရန်ကုန်မြို့။

| | | |
|---|---|---|
| တယ်လီဖုန်းအမှတ် | - | ၂၅၁၈၅၅၊ ၂၄၀၄၄၃ |
| ဖက်စ်အမှတ် | - | ၃၇၇၅၅၉ |

(ခ) ဦးသိန်းသန်း - ဥက္ကဋ္ဌ၊ Diamond Palace Co., Ltd.
(၈၄)လမ်းနှင့် (၂၇) လမ်း၊(၂၈)လမ်းကြား၊ ချမ်းအေးသာဇံ
မြို့နယ်၊ မန္တလေးမြို့၊

| | | |
|---|---|---|
| တယ်လီဖုန်းအမှတ် | - | ၀၂-၃၉၉၉၁၊ ၃၉၉၉၀၊ ၃၉၄၉၄ ၃၉၄၉၅ |
| ဖက်စ်အမှတ် | - | ၀၂-၃၉၉၉၂ |







<u>စာချုပ်စတင်အကျိုးသက်ရောက်သည့်နေ့</u>

၂၄။ ဤသဘောတူစာချုပ်သည် ၁-၄-၂၀၀၅ ရက်နေ့မှစ၍ စတင်အကျိုးသက်ရောက်သည်။

၂၅။ ဤစာချုပ်ပါ စည်းကမ်းချက်များကို သဘောတူလက်ခံသဖြင့် ၂၀၀၅ ခုနှစ်၊ မေလ (  )ရက် နေ့တွင် အောက်ပါအသိသက်သေများရှေ့၌ လက်မှတ်ရေးထိုးချုပ်ဆိုကြသည်-

| အငှါးချထားသူ(ကိုယ်စား) | | အငှါးချထားခြင်းခံရသူ | |
|---|---|---|---|
| လက်မှတ် | - ........................ | လက်မှတ် | - ........................ |
| အမည် | - ဦးစိုးသိန်း | အမည် | - ဦးသိန်းသန်း၊ဥက္ကဋ္ဌ |
| မှတ်ပုံတင်အမှတ်- | AG -၃၀၇၉၈၃ | | Diamond Palace Co., Ltd. |
| အဆင့်/တာဝန်- | ဦးဆောင်ညွှန်ကြားရေးမှူး | မှတ်ပုံတင်အမှတ်- | ၁၃/တခလ(နိုင်)၀၀၂၅၇၆ |
| ဌာန | - မြန်မာ့ဟိုတယ်နှင့်ခရီးသွားလုပ်ငန်း | နေရပ်လိပ်စာ | - (၈၄)လမ်းနှင့် (၂၇) လမ်း၊ (၂၈)လမ်းကြားချမ်းအေးသာဇံ မြို့နယ်၊ မန္တလေးမြို့။ |

<u>အသိသက်သေများ</u>

| | | | |
|---|---|---|---|
| လက်မှတ် | - ........................ | လက်မှတ် | - ........................ |
| အမည် | - ဦးဘိုးသာ | အမည် | - ဒေါ်အိရွှေစင်၊မန်နေဂျာ |
| မှတ်ပုံတင်အမှတ်- | MHG - ၀၉၈၅၇၅ | | Diamond Palace Co.,Ltd. |
| ရာထူး | - ဒုတိယအထွေထွေမန်နေဂျာ | မှတ်ပုံတင်အမှတ်- | ၅/ကတတ(နိုင်)၁၁၁၃၈၇ |
| ဌာန | - မြန်မာ့ဟိုတယ်နှင့်ခရီးသွားလုပ်ငန်း။ | နေရပ်လိပ်စာ | - ၃၁ (ခ)၊ သစ္စာလမ်း၊ ရန်ကင်းမြို့နယ်၊ ရန်ကုန်မြို့။ |

# မိတ္ထီလာဟိုတယ်တည်နေရာပြပုံ



## ဟိုတယ်နှင့်ခရီးသွားလုပ်ငန်းဖွံ့ဖြိုးတိုးတက်ရေးဦးစီးဌာနပိုင် မိတ္တီလာဟိုတယ်အား ငှားရမ်းခြင်းအတွက် မူလစာချုပ်အား ပြင်ဆင်သည့်ပြင်ဆင်ချက်သဘောတူစာချုပ်

**စာချုပ်ချုပ်ဆိုသူများ**

၁။ ဤစာချုပ်ကို ၂၀၁၄ခုနှစ်၊ ဖေဖော်ဝါရီ လ (၁၀)ရက်နေ့၌ ညွှန်ကြားရေးမှူးချုပ် ဦးတင့်သွင်၊ နိုင်ငံသားစိစစ်ရေးကဒ်အမှတ်(၁၃/တယန(နိုင်)၀၀၃၃၆၇)ကိုယ်စားပြုသောဟိုတယ်နှင့်ခရီးသွားလုပ်ငန်းဖွံ့ဖြိုးတိုးတက်ရေးဦးစီးဌာန၊ ဟိုတယ်နှင့်ခရီးသွားလာရေးလုပ်ငန်းဝန်ကြီးဌာန(နောင်တွင် "အငှားချထားသူ" ဟု ခေါ်ဆိုမည်ဖြစ်ပြီးယင်းစကားရပ်တွင် ၎င်းအားဆက်ခံသူများနှင့် ဥပဒေအရလွှဲအပ်ခံရသူတို့ပါဝင်သည်) က တစ်ဖက်နှင့် ဒါရိုက်တာဦးသိန်းသန်း၊ နိုင်ငံသားစိစစ်ရေးကဒ်အမှတ် (၁၃/တခလ(နိုင်)၀၀၂၅၇၆) ကိုယ်စားပြုသော မန္တလေးတိုင်း၊ ချမ်းအေးသာဇံမြို့နယ်၊ (၈၄လမ်းနှင့်၂၇လမ်း၊ ၂၈လမ်းအကြား)တွင် တည်ရှိသည့် Diamond Palace Co.,Ltd (နောင်တွင် "အငှားချထားခြင်းခံရသူ"ဟု ခေါ်ဆိုမည်ဖြစ်ပြီး ယင်းစကားရပ်တွင် ၎င်းအားဆက်ခံသူများ တရားဝင်ကိုယ်စားလှယ်များနှင့် ဥပဒေအရလွှဲအပ်ခြင်းခံရသူများပါဝင်သည်) က အခြားတစ်ဖက်တို့သည် မူလစာချုပ်ကို ပြင်ဆင်သည့် နှစ်ဖက်သဘောတူစာချုပ် ချုပ်ဆိုကြပါသည် -

**ရည်ရွယ်ချက်**

၂။ ဤပြင်ဆင်ချက်စာချုပ်ကို ချုပ်ဆိုသည့် ရည်ရွယ်ချက်မှာ အောက်ပါအတိုင်းဖြစ်ပါသည် -

(က) မြန်မာ့ဟိုတယ်နှင့်ခရီးသွားလုပ်ငန်း၏ (၂၄-၉-၂၀၁၂)ရက်စွဲပါစာအမှတ်၊ စ-၄/၂၀၁၂/နပတ(၅၇၆)အရ မိတ္တီလာဟိုတယ်၏ တစ်နှစ်ငှားရမ်းခကျပ်သိန်း (၂၀၀)သို့ ပြင်ဆင်သတ်မှတ်ခဲ့ခြင်းကို စာချုပ်ချုပ်ဆိုထားခြင်းမရှိသဖြင့် လုပ်ထုံးလုပ်နည်းနှင့်အညီဖြစ်စေရန်အတွက် ပြင်ဆင်ချက်စာချုပ်ကို နှစ်ဘက်သဘောတူချုပ်ဆိုခြင်းဖြစ်ပါသည်။

(ခ) အငှားချထားသူနှင့် အငှားချထားခြင်းခံရသူတို့သည် (၄-၅-၂၀၀၅)ရက်နေ့တွင် မိတ္တီလာဟိုတယ် ကိုငှားရမ်းသည့် ဟိုတယ်ငှားရမ်းခြင်းဆိုင်ရာ နှစ်ဖက်သဘောတူစာချုပ် (နောင်တွင်"မူလစာချုပ်ဟု ခေါ်ဆိုမည်ဖြစ်သည်)ကို ချုပ်ဆိုခဲ့ကြပြီးမူလစာချုပ်အပိုဒ်၅(ခ) အရငှားရမ်းခကို (၁၅%)ထက်မပိုသော နှုန်းထားအစားကာလပေါက်ဈေးဖြင့် ညှိနှိုင်းပြီး ပြင်ဆင်ချက်သဘောတူစာချုပ်ကို နှစ်ဖက်သဘောတူချုပ်ဆိုပါသည်။

**ပြင်ဆင်ဖြည့်စွက်အစားထိုးမည့် စည်းကမ်းချက်များ**

၃။ မူလစာချုပ်အပိုဒ် ၅ (က )တွင်ပါရှိသည့် ငှားရမ်းခနှုန်းထားကိုပယ်ဖျက်၍ အောက်ပါစာပိုဒ်ဖြင့် အစားထိုး ပြင်ဆင်ပါသည် -

အငှားချထားခြင်းခံရသူသည် သတ်မှတ်ထားသော တစ်နှစ်ငှားရမ်းခကျပ်သိန်း( ၂၀၀ )ကို (၁-၁၀-၂၀၁၂)ရက်နေ့မှစ၍ ပေးသွင်းရမည်။

၄။ မူလစာချုပ်ပါ ကျန်စည်းကမ်းချက်များနှင့် နောက်ဆက်တွဲပါ စည်းကမ်းချက်များသည် ပြောင်းလဲမှုမရှိဘဲ ဆက်လက်အကျိုးသက်ရောက်စေရမည်။

၅။ ဤပြင်ဆင်ချက်စာချုပ်သည် မူလစာချုပ်၏ တစ်စိတ်တစ်ဒေသဖြစ်စေရမည်။

**စာချုပ်စတင်အကျိုးသက်ရောက်သည့်နေ့**

၆။ ဤပြင်ဆင်ချက်စာချုပ်သည် (၁-၁၀-၂၀၁၂)ရက်နေ့မှစ၍ စတင်အကျိုးသက်ရောက်စေရမည်။

၇။ စာချုပ်ပါစည်းကမ်းချက်များကို စာချုပ်ဝင်နှစ်ဦးနှစ်ဖက်ဖတ်ရှုသဘောတူသဖြင့် (၂၀၁၄)ခုနှစ်၊ (ဇူလိုင်) လ (၁၀)ရက်နေ့တွင် အောက်ပါအသိသက်သေများ ရှေ့မှောက်တွင် လက်မှတ်ရေးထိုးချုပ်ဆိုကြပါသည်။

| အငှါးချထားသူ(ကိုယ်စား) | | အငှါးချထားခြင်းခံရသူ(ကိုယ်စား) | |
|---|---|---|---|
| လက်မှတ် | - | လက်မှတ် | - |
| အမည် | - ဦးတင့်သွင် | အမည် | - ဦးသိန်းသန်း |
| မှတ်ပုံတင်အမှတ် | - ၁၃/တယန(နိုင်)၀၀၃၃၆၇ | မှတ်ပုံတင်အမှတ် | - ၁၃/တခလ(နိုင်)၀၀၂၅၃၆ |
| အဆင့်/တာဝန် | - ညွှန်ကြားရေးမှူးချုပ် ဟိုတယ်နှင့်ခရီးသွားလုပ်ငန်း ဖွံ့ဖြိုးတိုးတက်ရေးဦးစီးဌာန | နေရပ်လိပ်စာ | - ၈၄လမ်းနှင့်၂၇လမ်းနှင့်၂၈ လမ်းကြား၊ချမ်းအေးသာစံ မြို့နယ်၊မန္တလေးမြို့။ |

**အသိသက်သေများ**

| | | | |
|---|---|---|---|
| လက်မှတ် | - | လက်မှတ် | - |
| အမည် | - ဦးမြင့်ဦး | အမည် | - ဦးသန်းစိန် |
| မှတ်ပုံတင်အမှတ် | - ၁၄/ပသန(နိုင်)၁၃၁၆၄၅ | မှတ်ပုံတင်အမှတ် | - ၇/ပခန(နိုင်)၁၃၀၆၃၀၀ |
| ရာထူး | - ညွှန်ကြားရေးမှူး | နေရပ်လိပ်စာ | - ၈၄လမ်းနှင့်၂၇လမ်းနှင့်၂၈ လမ်းကြား၊ချမ်းအေးသာစံ မြို့နယ်၊မန္တလေးမြို့။ |
| ဌာန | - ဟိုတယ်နှင့်ခရီးသွားလုပ်ငန်းဖွံ့ဖြိုးတိုးတက်ရေးဦးစီးဌာန | | |

မြန်မာနိုင်ငံ ကုမ္ပဏီများ အက်ဥပဒေ

အစုရှယ်ယာများဖြင့် ပေးရန်ဘာဝန် ကန့်သတ်ထားသော အများနှင့် မသက်ဆိုင်သည့်ကုမ္ပဏီ

# ဒိုင်မွန်းပဲလေ့စ် ဟိုတယ် ကုမ္ပဏီ လီမိတက်

၏

## သင်းဖွဲ့မှတ်တမ်း

နှင့်

## သင်းဖွဲ့စည်းမျဉ်းများ

❖ ❖ ❖ ❖

THE MYANMAR COMPANIES ACT

PRIVATE COMPANY LIMITED BY SHARES

# Memorandum Of Association

*AND*

# Articles Of Association

*OF*

# DIAMOND PALACE HOTELS COMPANY LIMITED

## မြန်မာနိုင်ငံ ကုမ္ပဏီများ အက်ဥပဒေ

အစုရှယ်ယာများဖြင့် ပေးရန်တာဝန် ကန့်သတ်ထားသော အများနှင့် မသက်ဆိုင်သည့် ကုမ္ပဏီ

# "စိန်နန်း[illegible] ဟိုတယ်" ကုမ္ပဏီ လီမိတက်

၏

# သင်းဖွဲ့မှတ်တမ်း

❖ ❖ ❖ ❖ ❖ ❖ ❖

၁။ ကုမ္ပဏီ၏ အမည်သည် " စိန်နန်း[illegible] ဟိုတယ် ကုမ္ပဏီ လီမိတက် " ဖြစ်ပါသည်။

၂။ ကုမ္ပဏီ၏ မှတ်ပုံတင် အလုပ်တိုက်သည် ပြည်ထောင်စု မြန်မာနိုင်ငံတော်အတွင်း တည်ရှိရမည်။

၃။ ကုမ္ပဏီ တည်ထောင်ရခြင်း၏ ရည်ရွယ်ချက်များမှာ တစ်ဖက်စာမျက်နှာပါအတိုင်း ဖြစ်ပါသည်။

၄။ အစုဝင်များ၏ ပေးရန်တာဝန်ကို ကန့်သတ်ထားသည်။

၅။ ကုမ္ပဏီ၏ သတ်မှတ်မ.တည်ငွေရင်းသည် ကျပ် ၁,၀၀၀,၀၀၀,၀၀၀ /-(ကျပ် သန်းတစ်ထောင် တိတိ) ဖြစ်၍ ငွေကျပ် ၁၀၀,၀၀၀/-(ကျပ် တစ်သိန်း တိတိ) တန် အစုရှယ်ယာပေါင်း ( ၁၀,၀၀၀ ) ခွဲထားပါသည်။ ကုမ္ပဏီ၏ ရင်းနှီးငွေကိုကုမ္ပဏီ၏ စည်းမျဉ်းများနှင့် လက်ရှိတရားဝင် တည်ဆဲဖြစ်နေသော တရားဥပဒေပြဋ္ဌာန်းချက်များနှင့် အညီ အထွေထွေ သင်းလုံးကျွတ် အစည်းအဝေး၌ တိုးမြှင့်နိုင်ခွင့်၊ လျှော့ချနိုင်ခွင့် နှင့် ပြင်ဆင်နိုင်ခွင့် အာဏာရှိစေရမည်။

## မြန်မာနိုင်ငံ ကုမ္ပဏီများ အက်ဥပဒေ

အစုရှယ်ယာများဖြင့် ပေးရန်တာဝန် ကန့်သတ်ထားသော အများနှင့်မသက်ဆိုင်သည့် ကုမ္ပဏီ

# "ဝိန်နန်းခေက် ဟိုတယ်" ကုမ္ပဏီ လီမိတက်

၏

## သင်းဖွဲ့စည်းမျဉ်းများ

❖ ❖ ❖ ❖ ❖ ❖ ❖

၁။ ဤသင်းဖွဲ့စည်းမျဉ်းနှင့် လိုက်လျောညီထွေမဖြစ်သည့် စည်းမျဉ်းများမှအပ၊ မြန်မာနိုင်ငံ ကုမ္ပဏီများအက်ဥပဒေ၏ နောက်ဆက်တွဲ ပထမဇယားပုံစံ 'က' ပါ စည်းမျဉ်းများသည် ဤကုမ္ပဏီနှင့် သက်ဆိုင်စေရမည်။ မြန်မာနိုင်ငံ ကုမ္ပဏီများ အက်ဥပဒေပုဒ်မ ၁၇(၂)တွင် ဖော်ပြပါရှိသည့် မလိုက်နာမနေရ စည်းမျဉ်းများသည် ဤကုမ္ပဏီနှင့် အစဉ်သဖြင့် သက်ဆိုင်စေရမည်။

### အများနှင့် မသက်ဆိုင်သော ကုမ္ပဏီ

၂။ ဤကုမ္ပဏီသည် အများနှင့် မသက်ဆိုင်သည့် ကုမ္ပဏီဖြစ်၍ အောက်ပါသတ်မှတ်ချက်များသည် အကျိုးသက်ရောက်စေရမည်။

(က) ဤကုမ္ပဏီက ခန့်အပ်ထားသော ဝန်ထမ်းများမှအပ၊ ဤကုမ္ပဏီ၏ အစုရှင်အရေအတွက်ကို ငါးဆယ်အထိသာ ကန့်သတ်ထားသည်။

(ခ) ဤကုမ္ပဏီ၏ အစုရှယ်ယာ သို့မဟုတ် ဒီဘင်ချာ သို့မဟုတ် ဒီဘင်ချာစတော့(ခ်) တစ်ခုခုအတွက် ငွေထည့်ဝင်ရန်အများပြည်သူတို့အား ကမ်းလှမ်းခြင်းမပြုလုပ်ရန် တားမြစ်ထားသည်။

### မ,တည်ရင်းနှီးငွေနှင့် အစုရှယ်ယာ

၃။ ကုမ္ပဏီ၏ သတ်မှတ် မ,တည်ငွေရင်း မှာ ကျပ် ၁,၀၀၀,၀၀၀,၀၀၀ /-(ကျပ် သန်းတစ်ထောင် တိတိ) ဖြစ်၍ ငွေကျပ် ၁၀၀,၀၀၀ /-(ကျပ် တစ်သိန်း တိတိ) တန် အစုရှယ်ယာပေါင်း ( ၁၀,၀၀၀ ) ခွဲထားပါသည်။ ကုမ္ပဏီ၏ ရင်းနှီးငွေကို ကုမ္ပဏီ၏ စည်းမျဉ်းများ နှင့် လက်ရှိတရားဝင် တည်ဆဲဖြစ်နေသော တရားဥပဒေ ပြဋ္ဌာန်းချက်များနှင့်အညီ အထွေထွေသင်းလုံးကျွတ် အစည်းအဝေး၌ တိုးမြှင့်နိုင်ခွင့်၊ လျှော့ချနိုင်ခွင့်နှင့် ပြင်ဆင်နိုင်ခွင့် အာဏာရှိစေရမည်။

မြန်မာနိုင်ငံကုမ္ပဏီများ အက်ဥပဒေပါ ပြဋ္ဌာန်းချက်များကို မထိခိုက်စေလျက် အစုရှယ်ယာများသည် ဒါရိုက်တာများ၏ ကြီးကြပ်ကွပ်ကဲမှု အောက်တွင် ရှိစေရမည်၊ ၎င်းဒါရိုက်တာများသည် သင့်လျော်သော ပုဂ္ဂိုလ်များအား သတ်မှတ်ချက် အခြေအနေ တစ်ခုံတစ်ရာဖြင့် အစုရှယ်ယာများကို ခွဲဝေချထားခြင်း သို့မဟုတ် ထုခွဲရောင်းချခြင်းတို့ကို ဆောင်ရွက်နိုင်သည်။

(၁) ဟိုတယ်များ၊ မိုတယ်များ၊ အင်းများ၊ အနားယူအပန်းဖြေစခန်းများ၊ လမ်းခရီးတွင်ရပ်နားတည်းခိုနိုင်သည့် အိမ်များ၊ အားလပ်ရက်အပန်းဖြေစခန်းများကို ဖွင့်လှစ်ရေးနှင့် ဆောင်ရွက်ရေးလုပ်ငန်းများလုပ်ကိုင်ရန်၊

(၂) ဟိုတယ်သုံးပစ္စည်းများဖြစ်သည့် အိုး၊ ခွက်၊ ပန်းကန်၊ ဇွန်း၊ ခက်ရင်း၊ ဓား၊ စသည့်များနှင့် အခြားသော ဆက်နွှယ်ပတ်သက်သည့် ကိရိယာတန်ဆာပလာများကို ဝယ်ယူခြင်းလုပ်ငန်းများ လုပ်ကိုင်ရန်၊

(၃) ဟိုတယ်တွင်း ကျွေးမွေးဧည့်ခံခြင်း ဝန်ဆောင်လုပ်ငန်းများ၊ ပျော်ဖြေရေးလုပ်ငန်းနှင့် အခြားဟိုတယ်နှင့် ပတ်သက်သမျှ ဝန်ဆောင်လုပ်ငန်းများ လုပ်ကိုင်ရန်၊

(၄) ကုမ္ပဏီမှ သင့်လျော်လျောက်ပတ်သည်ဟုယူဆပါက ကုမ္ပဏီ၏စီးပွားရေးလုပ်ငန်းတွင် အကျိုးရှိစေရန်အတွက် မည်သည့် ပုဂ္ဂိုလ်၊ စီးပွားရေးအဖွဲ့အစည်း၊ ကုမ္ပဏီ၊ ဘဏ် သို့မဟုတ် ငွေကြေးအဖွဲ့အစည်းထံမှ မဆို ငွေချေးယူရန်၊

**ခြွင်းချက်။** ။ ကုမ္ပဏီသည် အထက်ဖော်ပြပါ ရည်ရွယ်ချက်များကို ပြည်ထောင်စုမြန်မာနိုင်ငံတော်အတွင်း၌ ဖြစ်စေ၊ အခြားမည်သည့် အရပ်ဒေသ၌ ဖြစ်စေ၊ အချိန်ကာလအလိုက် တည်မြဲနေသော တရားဥပဒေများ၊ အမိန့်ကြော်ငြာစာများ၊ အမိန့်များက ခွင့်ပြုထားသည့်လုပ်ငန်းများမှအပ အခြားလုပ်ငန်းများကိုလုပ်ကိုင်ဆောင်ရွက်ခြင်းမပြုပါ။ ထို့အပြင် ပြည်ထောင်စုမြန်မာနိုင်ငံတော်အတွင်း၌အချိန်ကာလအားလျော်စွာ တည်မြဲနေသည့် တရားဥပဒေပြဋ္ဌာန်းချက်များ၊ အမိန့်ကြော်ငြာစာများ၊ အမိန့်များနှင့် လျော်ညီသင့်တော်ခြင်း သို့မဟုတ် ခွင့်ပြုထားခြင်းရှိမှသာလျှင် လုပ်ငန်းများကို ဆောင်ရွက်မည်ဟု ခြွင်းချက်ထားရှိပါသည်။

(၃)

အောက်တွင် အမည်၊ နိုင်ငံသား၊ နေရပ်နှင့် အကြောင်းအရာစုံလင်စွာပါသော ဇယားတွင် လက်မှတ်ရေးထိုးသူ ကျွန်ုပ်တို့ ကိုယ်စီကိုယ်ငှသည် ဤသင်းဖွဲ့မှတ်တမ်းအရ ကုမ္ပဏီတစ်ခုဖွဲ့စည်းရန် လိုလားသည့်အလျောက် ကျွန်ုပ်တို့၏ အမည်အသီးသီးနှင့် ယှဉ်တွဲ၍ပြထားသော အစုရှယ်ယာများကို ကုမ္ပဏီ၏ မတည်ရင်းနှီးငွေတွင် ထည့်ဝင်ရယူကြရန် သဘောတူကြပါသည်။

| စဉ် | အစုထည့်ဝင်သူများ၏ အမည်၊ နေရပ်လိပ်စာနှင့် အလုပ်အကိုင် | နိုင်ငံသားနှင့် အမျိုးသား မှတ်ပုံတင်အမှတ် | ဝယ်ယူသော အစုရှယ်ယာ ဦးရေ | ထိုးမြဲလက်မှတ် |
|---|---|---|---|---|
| ၁။ | ဦးသိန်းသန်း<br>၈၄ လမ်း၊ ၂၇ လမ်း နှင့် ၂၈ လမ်းကြား၊ ဈေးချိုတောင်ဘက် တိုက်တန်း၊ ချမ်းအေးသာဇံမြို့နယ်၊ မန္တလေးမြို့။ | မြန်မာ<br>၁၂/လကန (နိုင်)<br>၁၃၁၅၁၁ | ၁၁ | |
| ၂။ | ဒေါက်တာဒေါ်မြမြသန်း<br>အမှတ်-၃(ဘီ)၊ သစ္စာလမ်း၊<br>(၅) ရပ်ကွက်၊ ရန်ကင်းမြို့နယ်၊<br>ရန်ကုန်မြို့။ | မြန်မာ<br>၁၂/ရကန (နိုင်)<br>၀၂၆၁၁၈ | ၅ | |
| ၃။ | | | | |

ရန်ကုန်။ နေ့စွဲ၊ ၂၀ ၀၅ ခုနှစ်၊ ဖေဖော်ဝါရီ လ၊ ၂၃ ရက်။

အထက်ပါလက်မှတ်ရှင်များသည် ကျွန်ုပ်တို့၏ရှေ့မှောက်တွင် လက်မှတ်ရေးထိုးကြပါသည်။

U MAUNG MAUNG HTEIK
Certified Public Accountant
Date..................

Maung Maung Hteik
B.Com, C.P.A, D.E.P.
Certified Public Accountant

၅။ အစုရှယ်ယာလက်မှတ်များကို အထွေထွေမန်နေဂျာ သို့မဟုတ် ဒါရိုက်တာအဖွဲ့က သတ်မှတ်သည့် အခြားပုဂ္ဂိုလ်များကလက်မှတ်ရေးထိုး၍ ကုမ္ပဏီ၏တံဆိပ် ရိုက်နှိပ်ထုတ်ပေးရမည်။ အစုရှယ်ယာလက်မှတ်သည် ပုံပန်းပျက်ခြင်း၊ ပျောက်ဆုံးခြင်း သို့မဟုတ် ပျက်စီးခြင်းဖြစ်ပါက အဖိုးအခဖြင့် ပြန်လည်အသစ်ပြုလုပ်ပေးမှုကို သော်လည်းကောင်း၊ ဒါရိုက်တာများက သင့်လျော်သည်ဟု ယူဆသော အခြားသက်သေခံ အထောက်အထား တစ်စုံတစ်ရာကို တင်ပြစေ၍သော်လည်းကောင်း ထုတ်ပေးနိုင်သည်။ ကွယ်လွန်သွားသော အစုရှယ်ယာရှင်တစ်ဦး၏ တရားဝင် ကိုယ်စားလှယ်ကို ဒါရိုက်တာများက အသိအမှတ် ပြုပေးရမည်ဖြစ်သည်။

၆။ ဒါရိုက်တာများသည် အစုရှင်များထံမှ ၎င်းတို့၏ အစုရှယ်ယာများအတွက် မပေးသွင်းရသေးသော ငွေများကိုအခါအားလျော်စွာ တောင်းဆိုနိုင်သည်။ အစုရှင်တိုင်းကလည်း ၎င်းတို့ထံတောင်းဆိုသည့် အကြိမ်တိုင်း အတွက် ဒါရိုက်တာများက သတ်မှတ်သည့် ပုဂ္ဂိုလ်များထံ သတ်မှတ်သည့်အချိန်နှင့် နေရာတွင် ပေးသွင်းစေရန် တာဝန်ရှိစေရမည်။ ဆင့်ခေါ်မှုတစ်ခုအတွက် အရစ်ကျပေးသွင်းစေခြင်း၊ သို့မဟုတ် ပယ်ဖျက်ခြင်း သို့မဟုတ် ရွှေ့ဆိုင်းခြင်းတို့ကို ဒါရိုက်တာများက သတ်မှတ်နိုင်သည်။

## ဒါရိုက်တာများ

၇။ သင်းလုံးကျွတ် အစည်းအဝေးက တစ်စုံတစ်ရာ သတ်မှတ်ပြဋ္ဌာန်းမှု မပြုလုပ်သမျှ ဒါရိုက်တာများ၏ အရေအတွက်သည် ( ၂ )ဦး ထက်မနည်း ( ၉ ) ဦးထက်မများစေရ။

ပထမဒါရိုက်တာများသည် –

(၁) ဦးသိန်းသန်း

(၂) ဒေါက်တာဒေါ်မြမြသန်း

(၃)

(၄)

(၅) တို့ဖြစ်ကြပါသည်။

၈။ ဒါရိုက်တာများသည် ၎င်းတို့အနက်မှ တစ်ဦးကို မန်နေဂျင်းဒါရိုက်တာအဖြစ် အချိန်အခါအလိုက် သင့်လျော်သော သတ်မှတ်ချက်များ၊ ဥပဒေပုဒ်မများအရ ခန့်ထားရမည်ဖြစ်ပြီး အခါအားလျော်စွာ ဒါရိုက်တာအဖွဲ့က ပေးအပ်သော အာဏာများ အားလုံးကို ၎င်းက အသုံးပြုနိုင်သည်။

၉။ ဒါရိုက်တာတစ်ဦးဖြစ်မြောက်ရန် လိုအပ်သော အရည်အချင်းသည် ကုမ္ပဏီ၏ အစုရှယ်ယာ အနည်းဆုံး ( — )စုကို ပိုင်ဆိုင်ခြင်းဖြစ်၍ ၎င်းသည် မြန်မာနိုင်ငံ ကုမ္ပဏီများအက်ဥပဒေပုဒ်မ ၈၅ ပါ ပြဋ္ဌာန်းချက်များကို လိုက်နာရန် တာဝန်ရှိသည်။

၁၀။ အစုရှယ်ယာများ လွှဲပြောင်းရန် တင်ပြချက်ကို မည်သည့် အကြောင်းပြချက်မျှ မပေးဘဲ ဒါရိုက်တာအဖွဲ့သည် ၎င်းတို့၏ပြည့်စုံ၍ ချုပ်ချယ်ခြင်းကင်းသော ဆင်ခြင်တွက်ဆမှုဖြင့် မှတ်ပုံတင်ရန် ငြင်းဆိုနိုင်သည်။

## ဒါရိုက်တာများ၏ ဆောင်ရွက်ချက်များ

၁၁။ ဒါရိုက်တာများသည် ၎င်းတို့သင့်လျော်သည် ထင်မြင်သည့်အတိုင်း လုပ်ငန်းဆောင်ရွက်ရန် တွေ့ဆုံ ဆွေးနွေးခြင်း၊ အစည်းအဝေး ရွှေ့ဆိုင်းခြင်း၊ အချိန်မှန်စည်းဝေးခြင်း၊ အစည်းအဝေးအထမြောက်ရန် အနည်းဆုံး ဒါရိုက်တာဦးရေ သတ်မှတ်ခြင်းတို့ကို ဆောင်ရွက်နိုင်သည်။ ယင်းသို့ မသတ်မှတ်ပါက ဒါရိုက်တာနှစ်ဦး တက်ရောက်လျှင် အစည်းအဝေးထမြောက်ရမည်။ အစည်းအဝေးတွင် မည်သည့်ပြဿနာမဆို ပေါ်ပေါက်ပါက မန်နေဂျင်းဒါရိုက်တာ၏အဆုံးအဖြတ်သည် အတည်ဖြစ်ရမည်။ မည်သည့် ကိစ္စများကိုမဆို မဲခွဲဆုံးဖြတ်ရာတွင် မဲအရေအတွက်တူနေပါက သဘာပတိသည် ဒုတိယမဲ သို့မဟုတ် အနိုင်မဲကို ပေးနိုင်သည်။

၁၂။ ဒါရိုက်တာများ၏ အစည်းအဝေးကို မည်သည့်ဒါရိုက်တာကမဆို အချိန်မရွေး ခေါ်နိုင်သည်။

၃၃။ ဒါရိုက်တာအားလုံးက လက်မှတ်ရေးထိုးထားသော ရေးသားထားသည့်ဆုံးဖြတ်ချက်တစ်ရပ်သည် နည်းလမ်းတကျ ခေါ်ယူကျင်းပသော အစည်းအဝေးက အတည်ပြုသည့် ဆုံးဖြတ်ချက်ကဲ့သို့ပင် ကိစ္စအားလုံး အတွက် အကျိုးသက်ရောက်စေရမည်။

## ဒါရိုက်တာများ၏ လုပ်ပိုင်ခွင့်နှင့်တာဝန်များ

၃၄။ မြန်မာနိုင်ငံ ကုမ္ပဏီများအက်ဥပဒေ နောက်ဆက်တွဲဇယားပုံစံ (က)ပါ စည်းမျဉ်းအပိုဒ် ၇၁ တွင် ပေးအပ်ထားသော အထွေထွေ အာဏာများကို မထိခိုက်စေဘဲဒါရိုက်တာများသည် အောက်ဖော်ပြပါ အာဏာများ ရှိရမည်ဟု အတိအလင်း ထုတ်ဖော်ကြေညာသည်။ အာဏာဆိုသည်မှာ -

(၁) ဒါရိုက်တာများက သင့်လျော်သည်ဟုယူဆသော တန်ဖိုးနှင့်စည်းကမ်းများ၊ အခြေအနေများ သတ်မှတ်၍ ကုမ္ပဏီကရယူရန်အာဏာရှိသည့် မည်သည့်ပစ္စည်း၊ အခွင့်အရေးများ၊ အခွင့်အလမ်းများကိုမဆိုဝယ်ယူရန် သို့မဟုတ် အခြားနည်းလမ်းများဖြင့်ရယူပိုင်ဆိုင်ရန်အပြင် ကုမ္ပဏီကပိုင်ဆိုင်ခွင့်ရှိသောမည်သည့်ပစ္စည်း၊ အခွင့်အရေးများ၊ အခွင့်အလမ်းများကိုမဆို သင့်တော်သောစည်းကမ်းချက်များ သတ်မှတ်၍ရောင်းချခြင်း၊ အငှားချခြင်း၊ စွန့်လွှတ်ခြင်း၊ သို့မဟုတ် အခြားနည်းလမ်းများဖြင့် ဆောင်ရွက်ခြင်းတို့ကို ပြုလုပ်ရန်။

(၂) သင့်လျော်သောစည်းကမ်းသတ်မှတ်ချက်များဖြင့်ငွေကြေးများကိုချေးငှားရန် သို့မဟုတ်အဆိုပါချေးငှားသော ငွေကြေးများကို ပြန်လည်ပေးဆပ်ရန်အတွက် အာမခံများထားရှိရန်အပြင်၊ အထူးသဖြင့် ဤကုမ္ပဏီ၏ ဒိဘင်ချာများ၊ ဒိဘင်ချာစတော့(ခ်)များ၊ ခေါ်ယူခြင်းမပြုရသေးသော ရင်းနှီးငွေများအပါအဝင် ယခုလက်ရှိနှင့် နောင်ရှိမည့် ပစ္စည်းများအားလုံး သို့မဟုတ် တစ်စိတ်တစ်ဒေသကို အပေါင်ပြု၍ ထုတ်ဝေရန်။

(၃) ဤကုမ္ပဏီက ရယူထားသော အခွင့်အရေးများ သို့မဟုတ် ဝန်ဆောင်မှုများအတွက် အားလုံး သို့မဟုတ် တစ်စိတ်တစ်ဒေသကို ငွေကြေးအားဖြင့် ပေးချေရန်၊ သို့မဟုတ် အစုရှယ်ယာများ၊ ငွေချေးစာချုပ်များ၊ ဒိဘင်ချာများ သို့မဟုတ် ဤကုမ္ပဏီ၏အခြားသော အာမခံစာချုပ်များကို ထုတ်ပေးရန်၊ ထို့အပြင် အဆိုပါ အစုရှယ်ယာများ ထုတ်ပေးရာ၌ ငွေအပြည့် ပေးသွင်းပြီးသော အစုရှယ်ယာအနေဖြင့် သော်လည်းကောင်း၊ တစ်စိတ်တစ်ဒေသ ပေးသွင်းပြီးသော အစုရှယ်ယာများ အနေဖြင့်သော်လည်းကောင်း သဘောတူညီသကဲ့သို့ ထုတ်ဝေပေးရန်နှင့် အဆိုပါ ငွေချေးစာချုပ်များ၊ ဒိဘင်ချာများ သို့မဟုတ် ကုမ္ပဏီ၏ အခြားသော အာမခံစာချုပ်များဖြင့် ထုတ်ဝေပေးရာ၌ ခေါ်ဆိုခြင်း မပြုရသေးသော ရင်းနှီးငွေများ အပါအဝင် ဤကုမ္ပဏီ၏ ပစ္စည်းအားလုံး သို့မဟုတ် တစ်စိတ်တစ်ဒေသကို အပေါင်ပြု၍ဖြစ်စေ၊ ထိုကဲ့သို့မဟုတ်ဘဲဖြစ်စေ ထုတ်ပေးရန်။

(၄) ဤကုမ္ပဏီနှင့် ပြုလုပ်ထားသော ကန်ထရိုက်စာချုပ်များ၊ တာဝန်ယူထားသည့်လုပ်ငန်းများ ပြီးစီးအောင် ဆောင်ရွက်စေခြင်း အလို့ငှာခေါ်ယူခြင်း မပြုရသေးသော ရင်းနှီးငွေများ အပါအဝင် ဤကုမ္ပဏီ၏ ပစ္စည်းရပ်များ အားလုံး သို့မဟုတ် တစ်စိတ်တစ်ဒေသကို ပေါင်နှံ၍ သော်လည်းကောင်း၊ အပေါင်ပြု၍ သော်လည်းကောင်း သို့မဟုတ် အစုရှယ်ယာများအတွက် ငွေများ တောင်းခံခေါ်ယူ၍ သော်လည်းကောင်း ခွင့်ပြုရန် သို့မဟုတ် သင့်လျော်သည့်အတိုင်း ဆောင်ရွက်ရန်။

(၅) မန်နေဂျာများ၊ အတွင်းရေးမှူးများ အရာရှိများ၊ စာရေးများ၊ ကိုယ်စားလှယ်များနှင့် ဝန်ထမ်းများကိုအမြဲတမ်း၊ ယာယီ သို့မဟုတ် အထူးကိစ္စရပ်များအတွက်ခန့်ထားခြင်း၊ ရပ်စဲခြင်း၊ ဆိုင်းငံ့ခြင်းများအတွက်လည်းကောင်း၊ အဆိုပါ ပုဂ္ဂိုလ်တို့၏တာဝန်များ အာဏာများ၊ လစာငွေများ၊ အခြားငွေကြေးများကို သတ်မှတ်ရာ၌ လည်းကောင်း၊ အာမခံပစ္စည်းများ တောင်းခံရာ၌ လည်းကောင်း သင့်လျော်သလို ဆောင်ရွက်ရန်၊ ထို့အပြင် အဆိုပါ ကိစ္စရပ်များတွက် ကုမ္ပဏီ၏ မည်သည့် အရာရှိကိုမဆို ကိစ္စရပ်အားလုံးကိုဖြစ်စေ၊ တစ်စိတ်တစ်ဒေသကို ဖြစ်စေ ဒါရိုက်တာများ၏ကိုယ်စား ဆောင်ရွက်နိုင်ရေးအတွက် တာဝန်လွှဲအပ်ရန်။

(၆) ဤကုမ္ပဏီ၏ ဒါရိုက်တာတစ်ဦးအား ဒါရိုက်တာရာထူးနှင့် တွဲဖက်၍ မန်နေဂျင်း ဒါရိုက်တာ၊ အထွေထွေ မန်နေဂျာ၊ အတွင်းရေးမှူး သို့မဟုတ် ဌာနခွဲ မန်နေဂျာအဖြစ် ခန့်ထားရန်။

(၇) မည်သည့် အစုရှင်ထံမှမဆို ၎င်းတို့၏ အစုရှယ်ယာများအားလုံးကို ဖြစ်စေ၊ အချို့အဝက်ကိုဖြစ်စေ စွန့်လွှတ်ခြင်းအား သဘောတူညီသောစည်းကမ်းများဖြင့် လက်ခံရန်။

(၈) ဤကုမ္ပဏီက ပိုင်ဆိုင်သော သို့မဟုတ် ပိုင်ဆိုင်ခွင့်ရှိသော သို့မဟုတ် အခြားအကြောင်းများကြောင့်ဖြစ်သော မည်သည့် ပစ္စည်းကိုမဆို ကုမ္ပဏီ၏ကိုယ်စား လက်ခံထိန်းသိမ်းထားရန်အတွက် မည်သည့်ပုဂ္ဂိုလ် သို့မဟုတ် ပုဂ္ဂိုလ်များကိုမဆို ခန့်ထားရန်နှင့် အဆိုပါ ယုံမှတ် အပ်နှံခြင်းများနှင့် ပတ်သက်၍ လိုအပ်သော စာချုပ်စာတမ်းများ ချုပ်ဆို ပြုလုပ်ရန်။

(၉) ဤကုမ္ပဏီ၏ အရေးအရာများနှင့် စပ်လျဉ်း၍ ဤကုမ္ပဏီက ပြုလုပ်သော သို့မဟုတ် ဤကုမ္ပဏီအပေါ် သို့မဟုတ် ဤကုမ္ပဏီ၏ အရာရှိများအပေါ် ပြုလုပ်သော တရားဥပဒေအရ စွဲဆို ဆောင်ရွက်မှုများကို တရားစွဲဆို၊ အရေးယူ၊ ခုခံကာကွယ်ရန် သို့မဟုတ် ခွင့်လွှတ်ရန်၊ ထို့အပြင် ဤကုမ္ပဏီက ရရန်ရှိသော ကြွေးမြီများနှင့် ဤကုမ္ပဏီအပေါ် တောင်းခံသော ကြွေးမြီများနှင့်ပတ်သက်၍ ပေးဆပ်ရန် အချိန်ကာလ ရွှေ့ဆိုင်းခွင့်ပြုခြင်း သို့မဟုတ် နှစ်ဦးနှစ်ဖက် သဘောတူ ကျေအေးခြင်းများ ပြုလုပ်ရန်။

(၁၀) ဤကုမ္ပဏီက ပေးရန်ရှိသော သို့မဟုတ် ရရန်ရှိသော ငွေတောင်းခံခြင်းများကို ဖြန်ဖြေရေး ခုံသမာဓိထံသို့ ဖြေရှင်းရန်အတွက် အပ်နှံရန်အပြင် ဖြန်ဖြေရေး ခုံသမာဓိ၏ ဆုံးဖြတ်ချက်အတိုင်း လိုက်နာဆောင်ရွက်ရန်။

(၁၁) ဤကုမ္ပဏီက ရရန်ရှိသောတောင်းဆိုချက်၊ တောင်းခံချက်များနှင့် ကုမ္ပဏီသို့ပေးရန်ရှိသော ငွေကြေးများအတွက် ပြေစာများ ပြုလုပ် ထုတ်ပေးခြင်း၊ လျှော်ပစ်ခြင်းနှင့် အခြားသောနည်းဖြင့်စွန့်လွှတ်ခြင်းများကို ပြုလုပ်ရန်။

(၁၂) လူမွဲစာရင်းခံရခြင်း၊ ကြွေးမြီး မဆပ်နိုင်ခြင်း ကိစ္စများနှင့် ပတ်သက်၍ ကုမ္ပဏီ၏ကိုယ်စား ဆောင်ရွက်ရန်။

(၁၃) ငွေလွှဲစာတမ်းများ၊ ချက်လက်မှတ်များ၊ ဝန်ခံကတိစာချုပ်များ၊ ထပ်ဆင့် လက်မှတ်ရေးထိုးခြင်းများ၊ လျှော်ပစ်ခြင်းများ၊ ကန်ထရိုက် စာချုပ်များနှင့်စာရွက်စာတမ်းများကို ကုမ္ပဏီ၏ကိုယ်စား မည်သူက လက်မှတ် ရေးထိုးခွင့်ရှိသည်ကို စိစစ်သတ်မှတ်ရန်။

(၁၄) ဒါရိုက်တာများက သင့်လျော်သည်ဟု ယူဆပါက သင့်လျော် လျောက်ပတ်သောနည်းလမ်းများဖြင့် လတ်တလော အသုံးပြုရန် မလိုသေးသော ကုမ္ပဏီပိုင် ငွေများကို အာမခံပစ္စည်း ပါသည်ဖြစ်စေ၊ မပါသည်ဖြစ်စေ ရင်းနှီးမြှုပ်နှံထားရန်နှင့် စီမံခန့်ခွဲထားရန်။ ထို့အပြင် အချိန်ကာလအားလျော်စွာ မြှုပ်နှံထားသောငွေကို ပြန်လည်ရယူရန်နှင့် ပြင်ဆင်ပြောင်းလွဲရန်။

(၁၅) ဤကုမ္ပဏီ၏ အကျိုးအတွက် ငွေကြေး စိုက်ထုတ် ကုန်ကျခံထားသော ဒါရိုက်တာ သို့မဟုတ် အခြား ပုဂ္ဂိုလ်များက ကုမ္ပဏီ၏ (လက်ရှိနှင့် နောင်တွင်ရှိမည့်) ပစ္စည်းများကို ဤကုမ္ပဏီ၏ အမည်ဖြင့်ဖြစ်စေ၊ ဤကုမ္ပဏီ၏ ကိုယ်စားဖြစ်စေ ပေါင်နှံခြင်းကို သင့်လျော်သည်ဟု ယူဆပါက ဆောင်ရွက်ခွင့်ပြုရန်။ အဆိုပါ ပေါင်နှံခြင်းဆိုရာ၌ ရောင်းချနိုင်သည့် အာဏာနှင့် အခြားသော သဘောတူညီထားသည့် တရားဝင်သဘော တူညီချက်များနှင့် ဥပဒေပြဋ္ဌာန်းချက်များပါ ပါဝင်သည်။

(၁၆) ဤကုမ္ပဏီကခန့်အပ်ထားသော မည်သည့်အရာရှိသို့မဟုတ် ပုဂ္ဂိုလ်ကိုမဆို အဘိအကျဆောင်ရွက်ခဲ့သည့်လုပ်ငန်း သို့မဟုတ် ဆောင်ရွက်မှုတစ်ခုအတွက် ရရှိသော အမြတ်ငွေမှ ကော်မရှင်ပေးခြင်း သို့မဟုတ် ကုမ္ပဏီ၏ အထွေထွေ အမြတ်အစွန်းမှ ခွဲဝေပေး ခြင်းများ ပြုလုပ်ရန်နှင့် အဆိုပါကော်မရှင်များ၊ အမြတ်များခွဲဝေပေးခြင်း စသည်တို့ကို ဤကုမ္ပဏီ၏လုပ်ငန်းကုန်ကျစရိတ် တစ်စိတ်တစ်ဒေသအဖြစ် သတ်မှန်ရန်။

(၁၇) ဤကုမ္ပဏီ၏လုပ်ငန်းများ၊ အရာရှိများ ဝန်ထမ်းများနှင့် အစုရှင်များအတွက် ထုတ်ပြန်ထားသော စည်းမျဉ်းများ၊ စည်းကမ်းချက်များ၊ စည်းကမ်းဥပဒေများကို အခါအားလျော်စွာ သတ်မှတ်ခြင်း၊ ပြင်ဆင်ခြင်း၊ ဖြည့်စွက်ခြင်းများ ဆောင်ရွက်ရန်။

(၁၈) ဤကုမ္ပဏီ၏လုပ်ငန်းအတွက် ဤကုမ္ပဏီ၏အမည်ဖြင့်ဖြစ်စေ၊ ဤကုမ္ပဏီ၏ကိုယ်စားဖြစ်စေ လိုအပ်သည်ဟု ယူဆလျှင် ညှိနှိုင်းဆွေးနွေးခြင်းနှင့် ကန်ထရိုက်စာချုပ် ချုပ်ဆိုခြင်းများကို ပြုလုပ်ရန်၊ ဖျက်သိမ်းရန်နှင့် ပြင်ဆင်ရန် အပြင် အဆိုပါ ဆောင်ရွက်ချက် စာချုပ်များနှင့် ကိစ္စရပ်များကိုလည်းကောင်း ၎င်းတို့နှင့် စပ်လျဉ်းသော ကိစ္စရပ်များကို လည်းကောင်း လုပ်ကိုင်ဆောင်ရွက်ရန်။

(၁၉) ဒါရိုက်တာများက သင့်လျော်လျှောက်ပတ်သည်ဟု ယူဆပါက ကုမ္ပဏီ၏ စီးပွားရေးလုပ်ငန်းတွင် အကျိုးရှိစေရန်အတွက် မည်သည့် ပြည်တွင်းပြည်ပ ပုဂ္ဂိုလ်၊ စီးပွားရေး အဖွဲ့အစည်း ကုမ္ပဏီ သို့မဟုတ် ဘဏ် သို့မဟုတ် ငွေကြေးအဖွဲ့အစည်းထံမှ မဆို ငွေချေးယူရန်။

### အထွေထွေအစည်းအဝေးကြီးများ

၁၅။ ကုမ္ပဏီကိုဥပဒေအရ ဖွဲ့စည်းတည်ထောင်ပြီးသည့်နေ့မှ တစ်ဆယ့်ရှစ်လအတွင်း အထွေထွေသင်းလုံးကျွတ် အစည်းအဝေးကြီးကိုကျင်းပရမည်။ ထို့နောက် ဒါရိုက်တာအဖွဲ့က သတ်မှတ်ပေးသည့် အချိန်နှင့် နေရာများတွင် ပြက္ခဒိန်နှစ်တစ်နှစ်လျှင် အနည်းဆုံးတစ်ကြိမ် (နောက်ဆုံးကျင်းပသည့် အထွေထွေအစည်းအဝေးကြီးနှင့် တစ်ဆယ့်ငါးလထက် မပိုသည့်အချိန်၌) ကျင်းပရမည်။ သင်းလုံးကျွတ် အစည်းအဝေးစတင်၍ လုပ်ငန်းအတွက် ဆွေးနွေးချိန်တွင် အစည်းအဝေးအထမြောက်ရန် သတ်မှတ်ထားသည့် အစုရှင်အရေအတွက် မတက်ရောက်သော မည်သည့်သင်းလုံးကျွတ် အစည်းအဝေးတွင်မဆို လုပ်ငန်းနှင့် စပ်လျဉ်း၍ ဆုံးဖြတ်ဆောင်ရွက်ခြင်းမပြုရ။ ဤတွင်အခြားနည်း သတ်မှတ်ပြဋ္ဌာန်းခြင်း မရှိလျှင် ထုတ်ဝေထားသည့် မူလတည် ရင်းနှီးငွေ အစုရှယ်ယာများ၏ ငါးဆယ်ရာခိုင်နှုန်းထက်မနည်း ပိုင်ဆိုင်ကြသည့် (နှစ်ဦးထက်မနည်းသော) အစုရှင်များ ကိုယ်တိုင်တက်ရောက်လျှင် လုပ်ငန်းကိစ္စအားလုံး ဆောင်ရွက်ရန်အတွက် အစည်းအဝေးအထမြောက်သည်ဟုခံယူရ ဖြစ်သည်။ အကယ်၍ ကုမ္ပဏီတွင်အစုရှင်အရေအတွက် နှစ်ဦးတည်းသာရှိသည့် ကိစ္စတွင်မူ ထိုနှစ်ဦးတက်ရောက်သည်ပင်လျှင် အစည်းအဝေး အထမြောက်ရန် သတ်မှတ်သည့် အရေအတွက် ဖြစ်စေရမည်။

### အမြတ်ဝေစုများ

၁၆။ သင်းလုံးကျွတ်အစည်းအဝေးတွင် ဤကုမ္ပဏီ၏ အစုရှင်များအား ခွဲဝေပေးမည့် အမြတ်ဝေစုကို ကြေညာရမည်။ သို့ရာတွင် အမြတ်ဝေစုသည် ဒါရိုက်တာများက ထောက်ခံသော ငွေပမာဏထက် မကျော်လွန်စေရ။ သက်ဆိုင်ရာနှစ်၏ အမြတ်ပမာဏ သို့မဟုတ် အခြားခွဲဝေရသေးသည့် အမြတ်ပမာဏမှအပ အမြတ်ဝေစုကို ခွဲဝေမပေးရ။

### ရုံးဝန်ထမ်းများ

၁၇။ ကုမ္ပဏီသည် လုပ်ငန်းရုံးတစ်ခုကို ဖွင့်လှစ်၍ ဆောင်ရွက်မည်ဖြစ်ပြီး အရည်အချင်း ပြည့်မီသူပုဂ္ဂိုလ်တစ်ဦးအား အထွေထွေမန်နေဂျာအဖြစ် ခန့်အပ်မည့်အပြင် အခြားအရည်အချင်း ပြည့်မီသူများအား ရုံးဝန်ထမ်းများအဖြစ် ခန့်အပ်မည်ဖြစ်သည်။ လစာ၊ ခရီးသွားလာစရိတ်နှင့် အခြားအသုံးစရိတ်များကဲ့သို့သော ဥာဏ်ပူဇော်ခများနှင့် အခကြေးငွေများကို ဒါရိုက်တာအဖွဲ့က သတ်မှတ်မည်ဖြစ်ပြီး ၄င်းသတ်မှတ်ချက်များကို သင်းလုံးကျွတ် အစည်းအဝေးက အတည်ပြုရမည်။ အထွေထွေမန်နေဂျာသည် လုပ်ငန်းရုံး၏ ထိရောက်စွာလုပ်ငန်း လည်ပတ်မှုအားလုံးအတွက် တာဝန်ရှိစေရမည်ဖြစ်ပြီး မန်နေဂျင်း ဒါရိုက်တာအားတာဝန်ခံ၍ ဆောင်ရွက်ရမည်။

### ငွေစာရင်းများ

၁၈။ ဒါရိုက်တာများသည် သင့်လျော်သည့် ငွေစာရင်းစာအုပ်များကို အောက်ဖော်ပြပါ သတ်မှတ်ချက်များနှင့်အညီ ထားသိုထိန်းသိမ်း ဆောင်ရွက်ရမည်။

(၁) ကုမ္ပဏီ၏ ရငွေ၊ သုံးငွေများ၏ ပမာဏနှင့် ၄င်းရငွေ၊ သုံးငွေများ ဖြစ်ပေါ်ခြင်းနှင့် စပ်လျဉ်းသည့် အကြောင်းကိစ္စများ။

(၂) ကုမ္ပဏီ၏ ကုန်ပစ္စည်းများ ရောင်းချခြင်းနှင့် ဝယ်ယူခြင်းများ။

(၃) ဤကုမ္ပဏီ၏ ရရန်ပိုင်ခွင့်နှင့် ပေးရန်တာဝန်များ။

၁၉။ ငွေစာရင်းစာအုပ်အားလုံးကို ဤကုမ္ပဏီ၏ မှတ်ပုံတင်ထားသော လုပ်ငန်းရုံး သို့မဟုတ် ဒါရိုက်တာများက သင့်လျော်သည်ဟု ထင်မြင်ယူဆသော အခြားနေရာတွင် သိမ်းဆည်းထားရမည်ဖြစ်ပြီး၊ ရုံးချိန်အတွင်း၌ ဒါရိုက်တာများက စစ်ဆေးနိုင်ရန် ပြသထားရမည်။

### စာရင်းစစ်

၂၀။ စာရင်းစစ်များကို ခန့်အပ်ထားရမည်။ ၄င်းစာရင်းစစ်များ၏ တာဝန်သည် မြန်မာနိုင်ငံ ကုမ္ပဏီများ အက်ဥပဒေ သို့မဟုတ် အခါအားလျော်စွာ ပြင်ဆင်သတ်မှတ်သည့် စည်းမျဉ်း စည်းကမ်းများနှင့် လိုက်လျောညီထွေ ဖြစ်ရမည်။

(၉)

### နို့တစ်စာ

ဤကုမ္ပဏီသည် မည်သည့်အစုရှင်ထံသို့မဆို နို့တစ်စာကို လက်ရောက်ပေးအပ်ခြင်း သို့မဟုတ် နို့တစ်စာပါသောစာကို စာတိုက်ခ ကြိုတင်ပေးထား၍ ၎င်းအစုရှင်ထံ မှတ်ပုံတင်လိပ်စာအတိုင်း စာတိုက်မှတစ်ဆင့် လိပ်မူပေးပို့ခြင်းအားဖြင့် ပေးပို့နိုင်သည်။

### တံဆိပ်

ဒါရိုက်တာများသည် တံဆိပ်ကို လုံခြုံစွာထိန်းသိမ်းထားရန်အတွက် စီမံဆောင်ရွက်ရမည်။ ထိုတံဆိပ်ကို ဒါရိုက်တာများကကြိုတင်ပေးအပ်ထားသည့် ခွင့်ပြုချက်ဖြင့်မှတစ်ပါး၊ ထို့အပြင် အနည်းဆုံး ဒါရိုက်တာတစ်ဦး ရှေ့မှောက်တွင်မှတစ်ပါး မည်သည့်အခါမျှ မသုံးရ။ တံဆိပ်ရိုက်နှိပ်ထားသည့် စာရွက်စာတမ်းတိုင်းတွင် ထိုဒါရိုက်တာက လက်မှတ်ရေးထိုးရမည်။

### လျော်ကြေး

မြန်မာနိုင်ငံကုမ္ပဏီများ အက်ဥပဒေ ပုဒ်မ ၈၆ (ဂ) တွင် ဖော်ပြပါရှိသည့် ပြဋ္ဌာန်းချက်များ၊ လက်ရှိတရားဝင်တည်ဆဲဥပဒေပြဋ္ဌာန်းချက်များနှင့် မဆန့်ကျင်စေဘဲ ကုမ္ပဏီ၏ ဒါရိုက်တာ၊ စာရင်းစစ်၊ အတွင်းရေးမှူး သို့မဟုတ် အခြားအရာရှိ တစ်ဦးဦးမှာ မိမိ၏ တာဝန် ဝတ္တရားများကို ဆောင်ရွက်ရာ၌ဖြစ်စေ၊ ထိုတာဝန် ဝတ္တရားများနှင့် စပ်လျဉ်း၍ဖြစ်စေ ကျခံခဲ့ရသည့်စရိတ်များ၊ တောင်းခံငွေများ၊ ဆုံးရှုံးငွေများ၊ ကုန်ကျငွေများနှင့် ကြွေးမြီတာဝန်များအတွက် ကုမ္ပဏီထံမှ လျော်ကြေး ရထိုက်ခွင့်ရှိစေရမည်။

### ဖျက်သိမ်းခြင်း

ကုမ္ပဏီ၏ အထွေထွေအစည်းအဝေး ဆုံးဖြတ်ချက်ဖြင့် ကုမ္ပဏီအား ဖျက်သိမ်းနိုင်သည်။ ယင်းသို့ ဖျက်သိမ်းရာတွင် မြန်မာနိုင်ငံကုမ္ပဏီများ အက်ဥပဒေများနှင့် ယင်းဥပဒေများအား အခါအားလျော်စွာ ပြင်ဆင်ပြောင်းလဲထားသည့် တရားဥပဒေများတွင် ပါဝင်သည့် စည်းမျဉ်းများအတိုင်း လိုက်နာပြုလုပ်ရမည်။

❖ ❖ ❖ ❖ ❖ ❖ ❖

အောက်တွင် အမည်၊ နိုင်ငံသား၊ နေရပ်နှင့် အကြောင်းအရာ စုံလင်စွာပါသော ဇယားတွင် လက်မှတ်ရေးထိုးသူ ကျွန်ုပ်တို့ ကိုယ်စီကိုယ်ငှသည် ဤသင်းဖွဲ့စည်းမျဉ်းအရ ကုမ္ပဏီတစ်ခုဖွဲ့စည်းရန် လိုလားသည့်အလျောက် ကျွန်ုပ်တို့၏ အမည်အသီးသီးနှင့် ယှဉ်တွဲ၍ ပြထားသော အစုရှယ်ယာများကို ကုမ္ပဏီ၏ မတည်ရင်းနှီးငွေတွင် ထည့်ဝင်ရယူကြရန် သဘောတူကြပါသည်။

| စဉ် | အစုထည့်ဝင်သူများ၏ အမည်၊ နေရပ်လိပ်စာနှင့် အလုပ်အကိုင် | နိုင်ငံသားနှင့် အမျိုးသား မှတ်ပုံတင်အမှတ် | ဝယ်ယူသော အစုရှယ်ယာ ဦးရေ | ထိုးမြဲလက်မှတ် |
|---|---|---|---|---|
| ၁။ | ဦးသိန်းသန်း<br>၈၄ လမ်း၊ ၂၇ လမ်း နှင့် ၂၈ လမ်းကြား၊<br>ဈေးချိုတောင်ဘက် တိုက်တန်း၊<br>ချမ်းအေးသာဇံမြို့နယ်၊ မန္တလေးမြို့။ | မြန်မာ<br>၁၂/လကန (နိုင်)<br>၁၃၁၅၁၁ | ၁၀ | |
| ၂။ | ဒေါက်တာဒေါ်မြမြသန်း<br>အမှတ်-၃(ဘီ)၊ သစ္စာလမ်း၊<br>(၅) ရပ်ကွက်၊ ရန်ကင်းမြို့နယ်၊<br>ရန်ကုန်မြို့။ | မြန်မာ<br>၁၂/ရကန (နိုင်)<br>၀၂၆၁၁၈ | ၅ | |
| ၃။ | | | | |

ရန်ကုန်။ နေ့စွဲ၊ ၂၀၀ ခုနှစ်၊ လ၊ ၂၄ ရက်။

အထက်ပါ လက်မှတ်ရှင်များသည် ကျွန်ုပ်၏ ရှေ့မှောက်တွင် ဖေ[illegible]ဝါရီ လက်မှတ်ရေးထိုးကြပါသည်။

U MAUNG MAUNG HTEIK
Date..................
Certified Public Accountant

Maung Maung Hteik
B.Com, C.P.A, D.E.P.
Certified Public Accountant

THE MYANMAR COMPANIES ACT

PRIVATE COMPANY LIMITED BY SHARES

# Memorandum Of Association

OF

# DIAMOND PALACE HOTELS COMPANY LIMITED

I. The name of the Company is DIAMOND PALACE HOTELS **COMPANY LIMITED.**

II. The registered office of the Company will be situated in the Union of Myanmar.

III. The objects for which the Company is established are as on the next page.

IV. The liability of the members is limited.

V. The authorised capital of the Company is Ks. 1,000,000,000 /- ( Kyats One Thousand Million Only ) divided into ( 10,000 ) shares of Ks. 100,000 /- ( Kyats One Hundred Thousand Only ) each, with power in General Meeting either to increase, reduce or alter such capital from time to time in accordance with the regulations of the Company and the legislative provisions for the time being in force in this behalf.

(i) business of opening and operating hotels, motels, inns, recreation centres, road-house, holiday camps of all kinds.

(ii) business of buying hotel supplies materials such as crockery, cutlery and other related tools and equipments.

(iii) business of providing hotel catering services entertainments and other related services of hotel industry.

(iv) To borrow money for the benefit of the Company's business from any person, firm, company, bank or financial organization in the manners that the Company shall think fit.

**PROVISO:** - *Provided that the Company shall not exercise any of the above objects whether in the Union of Myanmar or elsewhere, save in so far as it may be entitled so as to do in accordance with the Laws, Orders and Notifications in force from time to time and then only subject to such permission and or approval as may be prescribed by the Laws, Orders and Notifications of the Union of Myanmar for the time being in force.*

(3)

We, the several persons, whose names, nationalities, addresses and descriptions are subscribed below, are desirous of being formed into a Company in pursuance of this Memorandum of Association, and we respectively agree to take the number of shares in the capital of the Company set opposite our respective names.

| Sr. No. | Name, Address and Occupation of Subscribers | Nationality & N. R. C No. | Number of shares taken | Signatures |
|---|---|---|---|---|
| 1. | U Thein Than<br>84th Street, Between 27th & 28th Street, South Taik Tan Gyi, Zegyo, Chan Aye Tharsan Township, Mandalay. | Myanmar<br>12/La Ka Na (Naing) 131511 | 10 | |
| 2. | Dr. Daw Mya Mya Than<br>No. 3 (B), Thitsar Road, Ward No.(5), Yankin Township, Yangon. | Myanmar<br>12/Ya Ka Na (Naing) 026118 | 5 | |
| 3. | | | | |

Yangon. Dated the 23rd day of February 2005

It is hereby certified that the persons mentioned above put their signatures in my presence.

U MAUNG MAUNG HTEIK
Certified Public Accountant
Date..................

*Maung Maung Hteik*
*B.Com. C.P.A. D.F.P.*

THE MYANMAR COMPANIES ACT

PRIVATE COMPANY LIMITED BY SHARES

# Articles Of Association

OF

# DIAMOND PALACE HOTELS COMPANY LIMITED

❖ ❖ ❖ ❖ ❖ ❖ ❖

1. The regulations contained in Table "A" in the First Schedule to the Myanmar Companies Act shall apply to the Company save in so far as such regulations which are inconsistent with the following Articles. The compulsory regulations stipulated in Section 17 (2) of the Myanmar Companies Act shall always be deemed to apply to the Company.

## PRIVATE COMPANY

2. The Company is to be a Private Company and accordingly following provisions shall have effect:-

   *(a) The number of members of the Company, exclusive of persons who are in the employment of the Company, shall be limited to fifty.*

   *(b) Any invitation to the public to subscribe for any share or debenture or debenture stock of the Company is hereby prohibited.*

## CAPITAL AND SHARES

3. The Authorised Capital of the Company is Ks. 1,000,000,000 /- ( Kyats One Thousand Million Only) divided into( 10,000 ) shares of K 100,000 /- ( Kyats One Hundred Thousand Only) each, with power in General Meeting either to increase, reduce or alter such capital from time to time in accordance with the regulations of the Company and the legislative provisions for the time being in force in this behalf.

4. Subject to the provisions of the Myanmar Companies Act the shares shall be under the control of the Directors, who may allot or otherwise dispose of the same to such persons and on such terms and conditions as they may determine.

5. The certificate of title to share shall be issued under the Seal of the Company, and signed by the General Manager or some other persons nominated by the Board of Directors. If the share certificate is defaced, lost or destroyed, it may be renewed on payment of such fee, if any, and on such terms, if any, as to evidence and indemnity as the Directors may think fit. The legal representative of a deceased member shall be recognized by the Directors.

6. The Directors may from time to time make call upon the members in respect of any money unpaid on their shares, and each member shall be liable to pay the amount of every call so made upon him to the persons, and at the times and places appointed by the Directors. A call may be made payable by instalments or may be revoked or postponed as the Directors may determine.

## DIRECTORS

7. Unless otherwise determined by a General Meeting the number of Directors shall not be less than ( 2 ) and not more than ( 9 ).

The First Directors shall be:-

(1) U [illegible]

(2) Dr. Daw [illegible] Than

(3)

(4)

(5)

8. The Directors may from time to time appoint one of their body to the office of the Managing Director for such terms and at such remuneration as they think fit and he shall have all the powers delegated to him by the Board of Directors from time to time.

9. The qualification of a Director shall be the holding of at least ( — ) shares in the Company in his or her own name and it shall be his duty to comply with the provision of Section (85) of the Myanmar Companies Act.

10. The Board of Directors may in their absolute and uncontrolled discretion refuse to register any proposed transfer of shares without assigning any reason.

## PROCEEDINGS OF DIRECTORS

11. The Directors may meet together for the despatch of business, adjourn and otherwise regulate their meeting as they think fit and determine the quorum necessary for the transaction of business. Unless otherwise determined, two shall form a quorum. In any question arising at any meeting the Managing Director's decision shall be final. When any matter is put to a vote and if there shall be an equality of votes, the Chairman shall have a second or casting vote.

12. Any Director may at any time summon a meeting of Directors.

13. A resolution in writing signed by all the Directors shall be as effective for all purposes as a resolution passed out at meeting of the Directors, duly called, held and constituted.

## POWERS AND DUTIES OF DIRECTORS

14. Without prejudice to the general power conferred by Regulation 71 of the Table "A" of the Myanmar Companies Act, it is hereby expressly declared that the Directors shall have the following powers, that is to say power:-

(1) To purchase or otherwise acquire for the Company any property, rights or privileges which the Company is authorized to acquire at such price, and generally on such terms and conditions as they think fit; also to sell, lease, abandon or otherwise deal with any property, rights or privileges to which the Company may be entitled, on such terms and conditions as they may think fit.

(2) To raise, borrow or secure the payment of such sum or sums in such manner and upon such terms and conditions in all respects as they think fit and in particular by the issue of debentures or debenture stocks of the Company charged upon all or any part of the property of the Company (both present and future) including its uncalled capital for the time being.

(3) At their discretion, to pay for any rights acquired or services rendered to the Company, either wholly or partially in cash or in shares, bonds. debentures or other securities of the Company and any such shares may be issued either as fully paid up or with such amount credited as paid up thereon as may be agreed upon; and any such bonds, debentures or other securities may be either specifically charged upon all or any part of the property of the Company and its uncalled capital or not so charged.

(4) To secure the fulfilment of any contract or engagement entered into by the Company by mortgage or charge upon all or any of the property of the Company and its uncalled capital for the time being or by granting calls on shares or in such manner as they may think fit.

(5) To appoint at their discretion, remove or suspend such Managers, Secretaries, Officers, Clerks, Agents and Servants for permanent, temporary or special services as they may from time to time think fit and to determine their duties and powers and fix their salaries or emoluments and to require security in such instances in such amount as they think fit and to depute any officers of the Company to do all or any of these things on their behalf.

(6) To appoint a Director as Managing Director, General Manager, Secretary or Departmental Manager in conjunction with his Directorship of the Company.

(7) To accept from any member on such terms and conditions as shall be agreed on the surrender of his shares or any part thereof.

(8) To appoint any person or persons to accept and hold in trust for the Company any property belonging to the Company or in which it is interested or for any other purposes and to execute and do all such deeds and things as may be requisite in relation to any such trust.

(9) To institute, conduct, defend of abandon any legal proceedings by or against the Company or its officers or otherwise concerning the affairs of the Company and also to compound and allow time for payment or satisfaction of any debts due to or of any claims and demands by or against the Company.

(10) To refer claims and demands by or against the Company to arbitration and to observe and perform the awards.

(11) To make and give receipts, releases and other discharges for money payable to the Company and for the claims and demands of the Company.

(12) To act on behalf of the Company in all matters relating to bankruptcy and insolvency.

(13) To determine who shall be entitled to sign bills of exchange, cheques, promissory notes, receipts, endorsements, releases, contracts and documents for or on behalf of the Company.

(14) To invest, place on deposit and otherwise deal with any of the moneys of the Company not immediately required for the purpose thereof, upon securities or without securities and in such manners as the Directors may think fit, and from time to time vary or realize such investments.

(15) To execute in the name and on behalf of the Company in favour of any Director or other person who may incur or be about to incur any personal liability for the benefit of the Company, such mortgages of the Company's property (present and future) as they think fit and any such mortgage may contain a power of sale and such other powers, covenants and provisions as shall be agreed on.

(16) To give any officer or other person employed by the Company a commission on the profits of any particular business or transaction or a share in the general profit of the Company and such commission or share of profit shall be treated as part of the working expenses of the Company.

(17) From time to time, to make, vary and repeal bye-laws for the regulation of the business of the Company, the officers and servants or the members of the Company or any section thereof.

(18) To enter into all such negotiations and contracts and rescind and vary all such contracts and execute and do all such acts, deeds and things in the name and on behalf of the Company as they may consider expedient for or in relation to any of the matter aforesaid or otherwise for the purposes of the Company.

(19) To borrow money for the benefit of the Company's business from any person, firm or company or bank or financial organization of local and abroad in the manner that the Directors shall think fit.

## GENERAL MEETINGS

15. A general meeting shall be held within eighteen months from the date of its incorporation and thereafter at least once in every calendar year at such time ( not being more than fifteen months after the holding of the last preceding general meeting ) and places as may be fixed by the Board of Directors. No business shall be transacted at any general meeting unless a quorum of members is presented at the time when the meeting proceeds to business, save as herein otherwise provided Member holding not less than 50 percent of the issued shares capital (not less than two members) personally present, shall form a quorum for all purposes. And if and when in the case of there are only two number of members in the Company, those two members shall form a quorum.

## DIVIDENDS

16. The Company in general meeting may declare a dividend to be paid to the members, but no dividend shall exceed the amount recommended by the Directors. No dividends shall be paid otherwise than out of the profits of the year or any other undistributed profits.

## OFFICE STAFF

17. The Company shall maintain an office establishment and appoint a qualified person as General Manager and other qualified persons as office staffs. The remunerations and allowances such as salaries, travelling allowances and other expenditures incidental to the business shall be determined by the Board of Directors, and approved by the general meeting. The General Manager shall be responsible for the efficient operation of the office in every respect and shall be held accountable at all times to the Managing Director.

## ACCOUNTS

18. The Directors shall cause to be kept proper books of account with respect to:-

*(1) all sums of money received and expended by the Company and the matters in respect of which the receipts and expenditures take place;*

*(2) all sales and purchases of goods by the Company;*

*(3) all assets and liabilities of the Company.*

19. The books of account shall be kept at the registered office of the Company or at such other place as the Directors shall think fit and shall be opened to inspection by the Directors during office hours.

## AUDIT

20. Auditors shall be appointed and their duties regulated in accordance with the provisions of the Myanmar Companies Act or any statutory modifications thereof for the time being in force.

## NOTICE

21. A notice may be given by the Company to any member either personally or sending it by post in a prepaid letter addressed to his registered address.

## THE SEAL

22. The Directors shall provide for the safe custody of the Seal, and the Seal shall never be used except by the authority of the Directors previously given, and in the presence of one Director at least, who shall sign every instrument to which the Seal is affixed.

## INDEMNITY

23. Subject to the provisions of Section 86 (C) of the Myanmar Companies Act and the existing laws, every Director, Auditor, Secretary or other officers of the Company shall be entitled to be indemnified by the Company against all costs, charges, losses, expenses and liabilities incurred by him in the execution and discharge of the duties or in relation thereto.

## WINDING-UP

24. Subject to the provisions contained in the Myanmar Companies Act and the statutory modification thereupon, the Company may be wound up voluntarily by the resolution of General Meeting.

❖ ❖ ❖ ❖

We, the several persons, whose names, nationalities, addresses and descriptions are subscribed below, are desirous of being formed into a Company in pursuance of this Articles of Association, and we respectively agree to take the number of shares in the capital of the Company set opposite our respective names.

| Sr. No: | Name, Address and Occupation of Subscribers | Nationality & N. R. C. No. | Number of shares taken | Signatures |
|---|---|---|---|---|
| 1. | U Thein Than<br>84th Street, Between 27th & 28th Street, South Taik Tan Gyi, Zegyo, Chan Aye Tharsan Township, Mandalay. | Myanmar<br>12/La Ka Na<br>(Naing) 131511 | 10 | |
| 2. | Dr. Daw Mya Mya Than<br>No.3 (B), Thitsar Road, Ward No.(5), Yankin Township, Yangon. | Myanmar<br>12/Ya Ka Na<br>(Naing) 026118 | 5 | |
| 3. | | | | |

Yangon. Dated the 23rd day of February 2005

*It is hereby certified that the persons mentioned above put their signatures in my presence.*

U MAUNG MAUNG HTEIK Certified Public Accountant

*Maung Maung Hteik*
*B.Com, C.P.A, D.E.P.*
*Certified Public Accountant*

ရုံးတွင်းစာအကျဉ်းချုပ်
သို့မဟုတ် စာကြမ်းရေးရန်အတွက်

ရက်စွဲ၊ ၂၀၁၆ ခုနှစ် ဩဂုတ်လ ၂၅ ရက်

အကြောင်းအရာ။ **Diamond Palace Hotels Co., Ltd. မှ ဟိုတယ်နှင့် ခရီးသွားလာရေး ဝန်ကြီးဌာနပိုင် မန္တလေးတိုင်းဒေသကြီး၊ မိတ္ထီလာမြို့နယ်ရှိ မိတ္ထီလာ ဟိုတယ်အား နှစ်ရှည်ငှားရမ်း၍ ဟိုတယ်ဝန်ဆောင်မှုလုပ်ငန်းအား မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြု ပါရန် ဟိုတယ်နှင့် ခရီးသွားလာရေးဝန်ကြီးဌာနမှတစ်ဆင့် အဆိုပြုချက် တင်ပြလာခြင်းကိစ္စ**

၁။ Diamond Palace Hotels Co., Ltd. ( စိန်နန်းတော်ဟိုတယ်ကုမ္ပဏီလီမိတက် ) သည် ဟိုတယ်နှင့် ခရီးသွားလာရေးဝန်ကြီးဌာန၊ ဟိုတယ်နှင့် ခရီးသွားညွှန်ကြားမှုဦးစီးဌာနပိုင် မန္တလေးတိုင်းဒေသကြီး၊ မိတ္ထီလာမြို့နယ်၊ ရန်ကုန်-မန္တလေး လမ်းမကြီးဘေး၊ မိုင်တိုင် ၃၄၀/၁ မှ ၃၄၁/၁ ကြား မြေအကျယ်အဝန်း ၃၈.၈၈ ဧက အတွင်းရှိ မိတ္ထီလာဟိုတယ်အဟောင်းကို နှစ်ရှည်ငှားရမ်း၍ ဟိုတယ်ဝန်ဆောင်မှုလုပ်ငန်းအား မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြုချက်တင်ပြခြင်းကို ၂၀၁၆ ခုနှစ် ဩဂုတ်လ ၁၉ ရက်နေ့တွင် ကျင်းပသော မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်၏ ၁၅/၂၀၁၆ ကြိမ်မြောက် အစည်းအဝေးသို့ တင်ပြခဲ့ရာ “ ခွင့်ပြုမိန့်ထုတ်ပေးရန် ” ဆုံးဖြတ်ခဲ့ပါသည်။

၂။ အဆိုပါ ဆုံးဖြတ်ချက်အရ မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်သည် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေ အခန်း (၇)၊ ပုဒ်မ ၁၂(ခ) အရ အပ်နှင်းထားသော လုပ်ပိုင်ခွင့်များကို ကျင့်သုံးလျက် Diamond Palace Hotels Co., Ltd.( စိန်နန်းတော်ဟိုတယ် ကုမ္ပဏီ လီမိတက်) အား ဟိုတယ်ဝန်ဆောင်မှုလုပ်ငန်း ဆောင်ရွက်ရန် သက်ဆိုင်ရာ ရင်းနှီးမြှုပ်နှံသူသို့ ထုတ်ပေးမည့် **ခွင့်ပြုမိန့် နှင့် အမိန့်ကြော်ငြာစာ(စာချော)**တို့တွင် ဥက္ကဋ္ဌ မှ လက်မှတ်ရေးထိုး ပေးနိုင်ပါရန် တင်ပြအပ်ပါသည်။

(အောင်နိုင်ဦး)
အတွင်းရေးမှူး

ဥက္ကဋ္ဌ

၃။